# Thiri Multi Agricultural Co.,Ltd.

မှ

သဘာဝအခြေခံ

ခရီးသွားလုပ်ငန်းဆောင်ရွက်ရန်

တင်ပြချက်




# THIRI MULTI AGRICULTURAL CO., LTD.

No. (16), Corner of Ngu War St., and Aye Yeik Mon 7th St., Block-5, Se Hman Kane Part-3, Hlaing Tsp, Yangon
Tel:+951 531077, 532088, Fax:+951 512899 E-mail: thiriswe@myanmarwingate.com, thiri.multirading@gmail.com


သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်။

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ၊ ( ၃ )ရက်။

အကြောင်းအရာ။ **။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက်များပေးပို့ခြင်း။**

မိမိတို့၏ Thiri Multi Agricultural Co.,Ltd. သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပဲခူးတိုင်းဒေသကြီး(အရှေ့)၊ တောင်ငူခရိုင်၊ အုတ်တွင်းမြို့နယ်၊ ခပေါင်းကြိုးဝိုင်းအတွင်းရှိ အကွက်အမှတ် (၈၁၊၈၃) ဧရိယာ (၁၀. ၈၀)ဧကအတွင်း အခြေခံခရီးသွားအပန်းဖြေစခန်း(Ecotourism)လုပ်ငန်း လုပ်ကိုင်ရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့် လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

သို့ဖြစ်ပါ၍ ကျွန်တော်၏ အဆိုပြုလွှာကို လိုအပ်သလိုစိစစ်ပေးနိုင်ရန်အတွက် အဆိုပြုလွှာ ( ၁ )စုံကို ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်သီရိဆွေ

အုပ်ချုပ်မှုဒါရိုက်တာ

Thiri Multi Agricultural Co.,Ltd.

မိတ္တူကို–

–ရုံးလက်ခံ




**THIRI MULTI AGRICULTURAL CO., LTD.**
No. (16), Corner of Ngu War St., and Aye Yeik Mon 7th St., Block-5, Se Hman Kane Part-3, Hlaing Tsp, Yangon.
Tel:+951 531077, 532088, Fax:+951 512899 E-mail: thiriswe@myanmarwingate.com, thiri.multirading@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ (၁၅)ရက်

အကြောင်းအရာ။ ။ **ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏သဘောထားမှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြခြင်း**

ရည်ညွှန်းချက် ။ ။ ရင်းနှီးမြှုပ်နှံမှု ဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၏ (၇. ၂. ၂၀၁၆ )ရက်စွဲပါ စာအမှတ် ၊ ၀၀၀ / MIC (OSS) / ECD / 0) (၇/၂/၁၆)

၁။ Thiri Multi Agricultural Company Limited မှ ပဲခူးတိုင်းဒေသကြီး ၊ တောင်ငူခရိုင်၊အုတ်တွင်းမြို့နယ်၊ ခပေါင်းသစ်တောကြိုးဝိုင်းအတွင်း (၁၀. ၈၀)ဧကပေါ်တွင် သဘာဝအခြေခံ ခရီးသွား အပန်းဖြေ ဝန်ဆောင်မှု လုပ်ငန်းအား ရည်ညွှန်းပါစာဖြင့် ညွှန်ကြားချက်အရ အောက်ပါအတိုင်း ဆောင်ရွက်ပါမည် -

(က) လူမှုရေးဆိုင်ရာ ပူးပေါင်းပါဝင်တာဝန်ယူဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ (၁%)ဖြင့် အကောင်အထည်ဖော်ဆောင်ရွက်ပါမည်။

(ခ) ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုများ မဖြစ်စေရေးအတွက် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management - EMP) အား ရေးဆွဲ၍ စီမံချက်ပါအတိုင်း ဆောင်ရွက်ပါမည်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များနှင့် လိုက်နာဆောင်ရွက်ပါမည်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီး အစိုးရအဖွဲ့နှင့် ဒေသခံ ပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်သွားပါမည်။

၂။ Thiri Multi Agricultural Company Limited အနေဖြင့် သဘာဝအခြေခံခရီးသွားအပန်းဖြေ ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာတွင် ရည်ညွှန်းပါစာ ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ဒေါ်သီရိဆွေ
အုပ်ချုပ်မှုဒါရိုက်တာ
Thiri Multi Agricultural Co.,Ltd

မိတ္တူကို -

- ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ရန်ကုန်မြို့



**THIRI MULTI AGRICULTURAL CO., LTD.**

No. (16), Corner of Ngu War St., and Aye Yeik Mon 7th St., Block-5, Se Hman Kane Part-3, Hlaing Tap, Yangon.
Tel:+951 531077, 532088, Fax:+951 512899 E-mail: thiriswe@myanmarwingate.com, thiri.multirading@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

ရက်စွဲ ၊ ၂၀၁၆ ခုနှစ်၊ မတ်လ (၁၅)ရက်

အကြောင်းအရာ။ ။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း တင်ပြခြင်း

ရည်ညွှန်းချက် ။ ။ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန၊ဝန်ကြီးရုံး၏ (၈. ၃. ၂၀၁၆) ရက်စွဲပါ စာအမှတ် ၊ ၁၈-၇(အုပ်ချုပ်မှု)/နပတ/၀၆၉၇

၁။ Thiri Multi Agricultural Company Limited မှ ပဲခူးတိုင်းဒေသကြီး ၊ တောင်ငူခရိုင်၊ အုတ်တွင်းမြို့နယ်၊ ခပေါင်းသစ်တောကြိုးဝိုင်းအတွင်း (၁၀. ၈၀)ဧက အပေါ်တွင် သဘာဝအခြေခံ ခရီးသွား အပန်းဖြေ ဝန်ဆောင်မှု လုပ်ငန်းအား ဟိုတယ်ခရီးသွားလာရေး ဝန်ကြီးဌာန၏ ရည်ညွှန်းပါစာအရ အောက်ပါအတိုင်း ဆောင်ရွက်ပါမည်-

(က) လုပ်ငန်းဆောင်ရွက်ရန်အတွက် ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ခွင့်ပြုချက် ရယူ ဆောင်ရွက်ပါမည်။

(ခ) Bungalow အခန်း(၁)ခန်းလျှင် မြန်မာကျပ်ငွေ (၅၀၀၀၀)ကျပ်နှုန်း ငှားရမ်းမည်ဖြစ်၍ အသုံးပြုမည့် ပစ္စည်းများ ၊ ပေးသော ဝန်ဆောင်မှုများလည်း လျှော်ကန် သင့်တင့်အောင် ဆောင်ရွက်ပါမည်။

(ဂ) ဟိုတယ်လုပ်ငန်းအတွက် လိုအပ်သော ပစ္စည်းများအား ပြည်တွင်းမှ ဝယ်ယူအသုံးပြုပါမည်။

(ဃ) ဟိုတယ်ဝန်ထမ်းများအား ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်းဆိုင်ရာ သင်တန်းတက်စေပါမည်။

(င) ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်ရရှိပါက မြန်မာနိုင်ငံဟိုတယ်နှင့်ခရီးသွားလာရေးဥပဒေနှင့်အညီ ဟိုတယ်လုပ်ငန်းဆောင်ရွက်ခွင့်ပြုမိန့်ကို ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနသို့ တင်ပြလျှောက်ထားပါမည်။

၂။ Thiri Multi Agricultural Company Limited အနေဖြင့် သဘာဝအခြေခံခရီးသွားအပန်းဖြေ ဝန်ဆောင်မှု လုပ်ငန်းဆောင်ရွက်ရာတွင် ရည်ညွှန်းပါစာ ညွှန်ကြားချက်အတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ဒေါ်သီရိဆွေ
အုပ်ချုပ်မှုဒါရိုက်တာ
Thiri Multi Agricultural Co.,Ltd

မိတ္တူကို -

- ဝန်ကြီးရုံး၊ ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန
- နေပြည်တော်




၅

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၀၃(ခ)(၁)/( ၃၆၃ /၂၀၁၆)
ရက်စွဲ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၂၆ ရက်

သို့

✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သီရိဘက်စုံစိုက်ပျိုးမွေးမြူရေးကုမ္ပဏီမှ သဘာဝအခြေခံ ခရီးသွားလုပ်ငန်းဆောင်ရွက်ရန် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ အုတ်တွင်းမြို့နယ်၊ ခပေါင်းသစ်တောကြိုးဝိုင်းအတွင်း မြေ(၁၀.၈၀)ကေအား ငှားရမ်းခွင့်ပြုပါရန် တင်ပြခြင်းကိစ္စ**

ရည်ညွှန်းချက်။ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နိုင်ငံတော်သမ္မတရုံး၏၁၁-၁-၂၀၁၆ ရက်စွဲပါစာအမှတ်၊ ၁၃(၁)/၇/သမ္မတရုံး

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ၏ ၂၀၁၅ ခုနှစ်၊ ဧပြီလ(၇)ရက်နေ့တွင် ကျင်းပပြုလုပ်သော (၅/၂၀၁၅)ကြိမ်မြောက် အစည်းအဝေးဆုံးဖြတ်ချက်အရလည်းကောင်း၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နိုင်ငံတော်သမ္မတရုံး၏ ရည်ညွှန်းပါစာအရလည်းကောင်း၊ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ အုတ်တွင်းမြို့နယ်၊ ခပေါင်းသစ်တောကြိုးဝိုင်းအတွင်း အကွက်အမှတ်(၈၁)အတွင်းရှိ မြေ(၈.၁၄)ကေနှင့်အကွက်အမှတ်(၈၃)ရှိ မြေ(၂.၆၆)ကေ စုစုပေါင်းမြေ(၁၀.၈၀)ကေပေါ်တွင် သဘာဝအခြေခံ ခရီးသွားလုပ်ငန်းဆောင်ရွက်ရန် သီရိဘက်စုံစိုက်ပျိုးမွေးမြူရေးကုမ္ပဏီသို့ နှစ်ရှည်မြေငှားဖြင့် ငှားရမ်းရန် ခွင့်ပြုခဲ့ပါသည်။

၂။ အဆိုပါ သဘာဝအခြေခံခရီးသွားလုပ်ငန်းဆောင်ရွက်ရန်၊ မြေ(၁၀.၈၀)ကေ ငှားရမ်းခွင့်ရရှိသည့် သီရိဘက်စုံ စိုက်ပျိုးမွေးမြူရေးကုမ္ပဏီ၏ နှစ်ရှည်မြေငှားစာချုပ် ချုပ်ဆိုရန် မြေငှား စာချုပ်(မူကြမ်း)ပါ အချက်အလက်များမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | |
|---|---|---|
| (က) | ငှားရမ်းမည့်မြေ | (၁၀.၈၀)ကေ |
| (ခ) | ငှားရမ်းကာလ | ကနဦး(၅၀)နှစ်နှင့်သက်တမ်းတိုးမြှင့်ခြင်း (၁၀)နှစ်သက်တမ်း(၂)ကြိမ် |

| | | |
|---|---|---|
| (ဂ) | မြေငှားခပရီမီယံကြေး | မြေတစ်ဧကကျပ်၂၀၀၀၀<br>(ကျပ်နှစ်သောင်းတိတိ) 216000/- for 10.80 Area |
| (ဃ) | မြေငှားရမ်းခ | မြေတစ်ဧကတစ်နှစ်လျှင် ကျပ် ၃၀၀၀၀<br>(ကျပ်သုံးသောင်းတိတိ) 324000 yearly |
| (င) | လုပ်ငန်းအဆိုပြုသူအမည် | ဒေါ်သီရိဆွေ၊ မန်နေးဂျင်းဒါရိုက်တာ |
| (စ) | လုပ်ငန်းအမျိုးအစား | သဘာဝအခြေခံခရီးသွားလုပ်ငန်း |
| (ဆ) | ရင်းနှီးမြှုပ်နှံမှုတန်ဘိုး | ကျပ်သန်း၅၀၀,၀၀၀,၀၀၀(ကျပ်သန်းငါးရာတိတိ) |
| (ဇ) | ကုမ္ပဏီအမည် | သီရိဘက်စုံစိုက်ပျိုးမွေးမြူရေးကုမ္ပဏီ |

၃။ သို့ဖြစ်ပါ၍ သီရိဘက်စုံစိုက်ပျိုးမွေးမြူရေးကုမ္ပဏီမှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြမည့် လုပ်ငန်းအဆိုပြုချက် တင်ပြလွှာ၊ စာချုပ်(မူကြမ်း)၊ ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ အကြံပြုစာတို့ကို ဤစာနှင့်အတူ ပူးတွဲတင်ပြအပ်ပါသည်။

(ဝင်းထွန်း)
ပြည်ထောင်စုဝန်ကြီး

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်
သစ်တောဦးစီးဌာန

လျှို့ဝှက်



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

နိုင်ငံတော်သမ္မတရုံး

စာအမှတ်၊ ၁၃ (၁ ) / ၇ / သမ္မတရုံး

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ ၁၁ ရက်

သို့

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

၁၈၃ အကြောင်းအရာ။ **မြေငှားရမ်းခွင့်ကိစ္စ**

၁၂/၁/၁၆ ရည် ညွှန်း ချက်။ ယင်း၏ ၁၅-၁၂ -၂၀၁၅ ရက်စွဲပါစာအမှတ်၊ ၃ (၂) / ၀၃ (ခ) (၁)/ (၃၆၂၄/ ၂၀၁၅)

ပဲခူးတိုင်းဒေသကြီး ၊ တောင်ငူခရိုင် ၊ အုတ်တွင်းမြို့နယ်၊ ခပေါင်းသစ်တောကြိုးဝိုင်းအတွင်းရှိ မြေ ( ၁၀.၈ ) ဧကကို သဘာဝအခြေခံစရီးသွားလုပ်ငန်း ဆောင်ရွက်ရန်အတွက် သီရိဘက်စုံစိုက်ပျိုး မွေးမြူရေးကုမ္ပဏီသို့ မြေအသုံးချမှုပရီမီယံကြေး တစ်ဧကလျှင် ကျပ်( ၂၀,၀၀၀ ) ဖြင့်လည်းကောင်း ၊ မြေတစ်ဧကကို တစ်နှစ်လျှင် ငှားရမ်းခ ကျပ် (၃၀,၀၀၀) ဖြင့်လည်းကောင်း နှစ် (၅၀) ငှားရမ်းခွင့်ပြုပါရန် ရည်ညွှန်းစာဖြင့် တင်ပြလာခြင်းအား ခွင့်ပြုပါသဖြင့် လုပ်ထုံးလုပ်နည်းနှင့်အညီ ဆက်လက်ဆောင်ရွက် သွားရန် အကြောင်းကြားအပ်ပါသည်။

(signature)

ညွှန်ကြားရေးမှူးချုပ်

မိတ္တူကို

သမ္မတဦးစီးရုံး

ဒုတိယသမ္မတဦးစီးရုံးများ

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

သမ္မတရုံးဝန်ကြီးဌာန (၃)

လျှို့ဝှက်



D (P/L) ဆောင်ရွက်ရန်၊

ဝင်စာအမှတ် ...... ၂၅၈၄
ရက်စွဲ ၅-၆-၂၀၁၅



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပြည်ထောင်စုရှေ့နေချုပ်ရုံး
နေပြည်တော်

စာအမှတ်၊ ၂(၅)၃ - ၇၇ /နပတ( ၅၃၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇွန်လ ၅ ရက်

အကြောင်းအရာ။ **မြေငှားစာချုပ်(မူကြမ်း) အပေါ် သဘောထားမှတ်ချက်တောင်းခံသည့်ကိစ္စ**

ရည် ညွှန်း ချက် ။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန၊ ညွှန်ကြားရေးမှူးချုပ်ရုံး၏ ၂၀-၅-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ဥယျာဉ်-ငွေ / သီရိဘက်စုံ (မြေ) / ၃၇၀၇ / ၂၀၁၅

၁။ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊စီမံခန့်ခွဲရေးကော်မတီ၏ အစည်းအဝေးအမှတ်စဉ်(၅/၂၀၁၅)အရပဲခူးတိုင်းဒေသကြီး၊တောင်ငူခရိုင်၊ အုတ်တွင်းမြို့နယ်၊ ခပေါင်းသစ်တောကြိုးဝိုင်းအကွက်အမှတ်(၈၁)အတွင်းရှိမြေ(၈.၁၄) ဧက၊ အကွက်အမှတ်(၈၃) အတွင်းရှိမြေ(၂.၆၆) ဧက၊ စုစုပေါင်း(၁၀.၈၀) ဧကပေါ်တွင်သဘာဝအခြေခံခရီးသွားလုပ်ငန်းများ ဆောင်ရွက်ရန်အတွက် နှစ်ရှည် မြေငှားစာချုပ် ချုပ်ဆိုငှားရမ်းရန် သစ်တောဦးစီးဌာနနှင့် THIRI MULTI COMPANY LIMITED တို့အကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) အပေါ် သဘောထားမှတ်ချက်ပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့်မေတ္တာရပ်ခံလာသောကိစ္စဖြစ်ပါသည်။

၂။ ပေးပို့လာသော စာချုပ်(မူကြမ်း) ကိုဥပဒေရှုထောင့်မှ လေ့လာစိစစ်ပြီး အောက်ပါအတိုင်း သုံးသပ်အကြံပြုအပ်ပါသည်-

(က) စာချုပ်(မူကြမ်း) အပိုဒ် ၁ ရည်ရွယ်ချက်၊ အပိုဒ်ခွဲ ၁-၂ နှင့် အပိုဒ် ၁၂၊ အပိုဒ်ခွဲ ၁၂-၁(က) တို့၌ "နိုင်ငံတကာအဆင့်မီဟိုတယ်" ဟုသာဖော်ပြထားပြီး ဟိုတယ်အဆင့်သတ်မှတ်ချက်ဖော်ပြထားခြင်းမရှိသဖြင့် ဖော်ပြသင့်ပါသည်၊

(ခ) စာချုပ်(မူကြမ်း) များ အပိုဒ်ခွဲ ၁-၂ နှင့် အပိုဒ်ခွဲ ၅-၁ တို့၌ "အငှားချထားသည့်မြေ" ဟု ဖော်ပြထားပါသည်။ သို့သော် စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၁၁-၁ (ဂ)(ဃ)၊ ၁၂-၁(င)နှင့် ၁၄-၁ တို့၌ အငှားချထားခြင်းနှင့်စပ်လျဉ်း၍ "မြေ နှင့် အဆောက်အအုံ" ဟု လည်းကောင်း၊ စာချုပ်(မူကြမ်း)အပိုဒ် ၁၇-၁ တွင် မြေပေါ်ရှိ မူလအငှားချထားစဉ်က မပါရှိသောအဆောက်အဦများအားလုံးကို အငှားချထားခြင်းခံရသူ၏အစီအစဉ်ဖြင့် ရက်ပေါင်း(၉၀)အတွင်း ရှင်းလင်းဖယ်ရှားပြီး" ဟုလည်းကောင်းဖော်ပြထားရာ ရှင်းလင်းမှုမရှိကြောင်း တွေ့ရှိရပါသည်။ ငှားရမ်းခြင်းသည် မြေကိုငှားရမ်းခြင်းဖြစ်ကြောင်း သို့မဟုတ် မြေနှင့် အဆောက်အအုံကိုငှားရမ်းခြင်းဖြစ်ကြောင်းရှင်းလင်းစွာဖော်ပြရန်လိုအပ်ပါသည်၊

(ဂ) စာချုပ်(မူကြမ်း) အပိုဒ်ခွဲ ၅-၂ နှင့် ၆-၁ တို့တွင် မြေငှားရမ်းခြင်းသက်တမ်းအား တစ်ကြိမ်လျှင် ၁၀ နှစ်ဖြင့် ၂ ကြိမ်သက်တမ်းတိုးခွင့်ရှိကြောင်း ဖော်ပြထားသည်ကိုတွေ့ရှိရပါသည်။ သို့သော် စာချုပ်(မူကြမ်း) အပိုဒ် ၇ စာချုပ်သက်တမ်းတိုးခြင်းအပိုဒ်ခွဲ ၇-၁ ၌ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းနှင့်စပ်လျဉ်း၍ အထက်ပါအပိုဒ်ခွဲများ၌ ဖော်ပြသကဲ့သို့ ဖော်ပြထားခြင်းမရှိ၍ တစ်ကြိမ်လျှင် နှစ်မည်မျှဖြင့် တိုးမြှင့်နိုင်ကြောင်းဖော်ပြရန်လိုအပ်ပါသည်၊

(ဃ) စာချုပ်(မူကြမ်း) အပိုဒ် ၆ ငှားရမ်းသက်တမ်းကာလတိုးခြင်းနှင့် မှတ်ပုံတင်ခြင်း အပိုဒ်ခွဲ ၆-၁ ငှားရမ်းလုပ်ကိုင်ခွင့်ပြုသက်တမ်းကာလဟု ဖော်ပြထားပါသည်။ မြေငှားကာလ၊ စာချုပ်သက်တမ်းတို့ပါရှိပြီးဖြစ်၍ ငှားရမ်းလုပ်ကိုင်ခွင့်ပြုသက်တမ်းမှာလိုအပ်ခြင်းရှိ မရှိ ဌာနမှပြန်လည်စိစစ်သင့်ပါသည်၊

(င) စာချုပ်(မူကြမ်း) အပိုဒ် ၆ ငှားရမ်းသက်တမ်းတိုးခြင်းနှင့် မှတ်ပုံတင်ခြင်း အပိုဒ်ခွဲ ၆-၃ တွင် "မှတ်ပုံတင်ကြေးပေးဆောင်ရန် ------ ပေးသွင်းရပါမည်"

ဟုဖော်ပြထားပါသည်။ အပိုဒ်ခွဲ ၆-၂ တွင်အငှားချထားခြင်းခံရသူမှ မှတ်ပုံတင်ကြေးကျခံရန်ဖော်ပြပြီးဖြစ်၍ အပိုဒ်ခွဲ ၆-၃ မှာ မလိုအပ်ဟုယူဆပါသဖြင့် ပယ်ဖျက်သင့်ပါသည်၊

(စ) စာချုပ်(မူကြမ်း) အပိုဒ် ၁၂ အငှားချထားခြင်းခံရသူ၏တာဝန်များ၊ အပိုဒ်ခွဲ ၁၂-၁(က) တွင် ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာငွေကျပ် သန်း၅၀၀ဖြင့် တည်ဆောက်ပြီး Ecotournism လုပ်ငန်းကို အငှားချထားခြင်းခံရသူက "မိမိစရိတ်ဖြင့်" တည်ဆောက်လုပ်ကိုင်ရမည် ဟုဖော်ပြထားရာ ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာငွေကျပ်သန်း၅၀၀သည် မိမိစရိတ်မဟုတ်သည့်သဘောသက်ရောက် နေ သဖြင့် ဌာနမှပြန်လည် စိစစ်သင့်ပါသည်၊

(ဆ) စာချုပ်(မူကြမ်း) အပိုဒ် ၁၇၊ အပိုဒ်ခွဲ ၁၇-၁ တွင် "မြေပေါ်ရှိမူလအငှားချထားစဉ်က မပါရှိသောအဆောက်အဦများအားလုံးကို ရက်ပေါင်း ၉၀ အတွင်း ရှင်းလင်းဖယ်ရှားပြီး အငှားချထားသည့် မြေ ၁၀.၈၀ ဧကကို ကောင်းမွန်သောအနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ရမည်" ဟု ဖော်ပြထားပါသည်။ မူလအငှားချထားစဉ်ကမပါရှိသော အဆောက်အဦများအားလုံးကို ရှင်းလင်းဖယ်ရှားရေးနှင့်စပ်လျဉ်း၍ ဖော်ပြထားရာ မြေငှား၍ သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်းလုပ်ငန်းဆောင်ရွက်ခြင်းဖြစ်သဖြင့် အဆောက်အဦများဖယ်ရှားရန်ဖြစ်နိုင်ခြင်းရှိ မရှိ ဌာနမှ ပြန်လည်စဉ်းစားသင့်ပါသည်၊

(ဇ) စာချုပ်(မူကြမ်း)တွင် ကွက်လပ်များပါရှိနေရာ စာချုပ်ချုပ်ဆိုချိန်တွင် ပြည့်စုံစွာဖြည့်စွက်ပြီးဖြစ်ရန်လိုအပ်ပါသည်၊

(ဈ) လိုအပ်သောနေရာအချို့၌ မင်နီဖြင့် ပြင်ဆင်၊ ဖြည့်စွက်ပေးလိုက်ပါသည်။

၃။ ဤစာချုပ်(မူကြမ်း) ကို ပြည်ထောင်စု ရှေ့နေချုပ်ဥပဒေနှင့်အညီ ဥပဒေကြောင်း အရသာ ဥပဒေအကြံဉာဏ်ပေးခြင်းဖြစ်ပါသည်။ ဥပဒေရေးရာမဟုတ်သည့် စီမံရေးရာ၊ ဘဏ္ဍာရေးရာ ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များကို ဤရုံးအနေဖြင့် မှတ်ချက်ပေးရန်မရှိပါကြောင်းနှင့် ယင်းကိစ္စရပ်များနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာကျွမ်းကျင်သူများနှင့် ဆွေးနွေးညှိနှိုင်းဆောင်ရွက်ရန် အကြံပြုပါသည်။

၄။ THIRI MULTI COMPANY LIMITED သည် ဥပဒေအရတရားဝင်ဖွဲ့စည်းထားသော ကုမ္ပဏီ ဟုတ် မဟုတ်၊ စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်နိုင်စွမ်းနှင့် လုပ်ကိုင်နိုင်ခွင့်ရှိ မရှိ၊ ငွေကြေးအင်အား ပြည့်စုံမှုရှိ မရှိ၊ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူသည် တရားဝင်လွှဲအပ်ခြင်းခံရသူဟုတ် မဟုတ် စသည်တို့နှင့်စပ်လျဉ်း၍ ကြိုတင်စိစစ်ရန် လိုအပ်မည်ဖြစ်ပါသည်။

၅။ ဤစာချုပ်(မူကြမ်း)ကို လက်မှတ်ရေးထိုးချုပ်ဆိုပြီးပါက မှတ်တမ်းတင်ထားနိုင်ရန်အတွက် ဤရုံးသို့ မိတ္တူ(၃)စောင်ပေးပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

၆။ ဤ အကြံပြုချက်ကို လျှို့ဝှက်အဆင့် သတ်မှတ်ဆောင်ရွက်ရန် ဖြစ်ပါသည်။

၃/၆/၂၀၁၅

( ကျော်ဆန်း )

ညွှန်ကြားရေးမှူးချုပ်

ညွှန်ကြားရေးမှူးချုပ်

သစ်တောဦးစီးဌာန

မိတ္တူ - ရုံးလက်ခံ/ မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများ
ရင်းနှီးမြှုပ်နှံမှုပြုလုပ်ရန် ရင်းနှီးမြှုပ်နှံလိုသူ၏ ဆောင်ရွက်ရန်

# အဆိုပြုချက်




သီရိဘက်စုံစိုက်ပျိုးရေးကုမ္ပဏီလီမိတက်

******* **********

# PROPOSAL OF THE INVESTOR TO MAKE MYANMAR CITIZENS INVESTMENT IN THE UNION OF MYANMAR

**THIRI MULTI AGRICULTURAL COMPANY LIMITED.**




**THIRI MULTI AGRICULTURAL CO., LTD.**

No. (16), Corner of Ngu War St., and Aye Yeik Mon 7th St., Block-5, Se Hman Kane Part-3, Hlaing Tsp, Yangon.
Tel:+951 531077, 532088, Fax:+951 512899 E-mail: thiriswe@myanmarwingate.com, thiri.multirading@gmail.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်။

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇန်နဝါရီလ( ၂၆)ရက်။

အကြောင်းအရာ။ **။မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့်ပတ်သက်၍ ကတိခံဝန်ချက်များပေးပို့ခြင်း။**

မိမိတို့၏ Thiri Multi Agricultural Co.,Ltd. သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပဲခူးတိုင်းဒေသကြီး(အရှေ့)၊ တောင်ငူခရိုင်၊ အုတ်တွင်းမြို့နယ်၊ ခပေါင်းကြိုးဝိုင်းအတွင်းရှိ အကွက်အမှတ် (၈၁၊၈၃) ဧရိယာ (၁၀. ၈၀)ကေအတွင်း သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်း(Ecotourism)လုပ်ငန်း လုပ်ကိုင်ရန်ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

၎င်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ၎င်းလုပ်ငန်းတွင် နိုင်ငံခြားမှ မည်သူမှပိုင်ဆိုင်မှုမရှိကြောင်းနှင့် အောက်ပါအချက်များကို လိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၁။ မိမိတို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပွားစေရန် အတွက် လိုအပ်သောအစီအမံများ ကြိုတင်ကာကွယ်မှုများပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ကြောင်းနှင့် မီးဘေးကြိုတင်ကာကွယ်မှုများ ပြုလုပ်၍ လုပ်ငန်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

၂။ Thiri Multi Agricultural Co.,Ltd. သည် လုပ်ငန်းအတွက်လိုအပ်သောဆောက်လုပ်ရေး ပစ္စည်းကိရိယာများ၊ အလှဆင်ပစ္စည်းများနှင့် အပန်းဖြေစခန်း (Ecologe/Bangalow) လုပ်ငန်းသုံးပစ္စည်းများကို မိမိပိုင်မြန်မာကျပ်ငွေများဖြင့် ပြည်တွင်းကုမ္ပဏီများမှ ဝယ်ယူဆောင်ရွက်မည်ဖြစ်ပါသည်။

၃။ ထို့အပြင် နိုင်ငံတော်အစိုးရမှ မြေနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့်စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟုဝန်ခံကတိပြုပါသည်။

၄။ မဟာဓါတ်အားလိုင်းမှ လျှပ်စစ်မရရှိပါက ကိုယ်ပိုင်မီးစက်ဖြင့် ဆောင်ရွက်သွားပါမည်။

၅။ ယခုအဆိုပြုတင်ပြသည့်လုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှုအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

ဒေါ်သီရိဆွေ

အုပ်ချုပ်မှုဒါရိုက်တာ

Thiri Multi Agricultural Co.,Ltd.

မိတ္တူကို-

-ရုံးလက်ခံ



**THIRI MULTI AGRICULTURAL CO., LTD.**
No. (16), Corner of Ngu War St., and Aye Yeik Mon 7th St., Block-5, Se Hman Kane Part-3, Hlaing Tsp, Yangon.
Tel:+951 531077, 532088, Fax:+951 512899 E-mail: thiriswe@myanmarwingate.com, thiri.multirading@gmail.com

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်။

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ( ၃ )ရက်။

အကြောင်းအရာ။ **။ပြည်ထောင်စုမြန်မာနိုင်ငံတော်မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံခွင့်ပြုမိန့်နှင့် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များလျှောက်ထားခြင်း။**

မိမိတို့၏ Thiri Multi Agricultural Co.,Ltd. သည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ ပဲခူးတိုင်းဒေသကြီး(အရှေ့)၊ တောင်ငူခရိုင်၊ အုတ်တွင်းမြို့နယ်၊ ခပေါင်းကြိုးဝိုင်းအတွင်းရှိ အကွက်အမှတ် (၈၁၊၈၃) ဧရိယာ (၁၀. ၈၀)ဧကအတွင်း သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်း(Ecotourism) လုပ်ငန်းလုပ်ကိုင်ရန် ရည်ရွယ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုမိန့်လျှောက်ထားသောကုမ္ပဏီဖြစ်ပါသည်။

မိမိတို့ကုမ္ပဏီသည် အပန်းဖြေစခန်း(Ecologe/Bangalow)များတည်ဆောက်ရန်အတွက် ဆောက်လုပ်ရေးပစ္စည်းများနှင့် အပန်းဖြေစခန်းလုပ်ငန်းသုံးအလှဆင်ပစ္စည်းများကို မိမိကုမ္ပဏီပိုင်မြန်မာကျပ်ငွေဖြင့် ပြည်တွင်းကုမ္ပဏီများမှ ဝယ်ယူအသုံးပြုသွားမည်ဖြစ်ပါသည်။

မိမိတို့၏ ကုမ္ပဏီလီမိတက်အနေဖြင့် ယခုအဆိုပြုလုပ်ငန်းအတွက် ရင်းနှီးငွေစုစုပေါင်း ကျပ်သိန်း (၅၀၀၀)ကို အပန်းဖြေ(Ecologe/Bangalow)များ ဆောက်လုပ်ရာတွင်ထည့်ဝင်ရင်းနှီးမြှုပ်နှံကြမည်ဖြစ်ပါသည်။ Ecotourism လုပ်ငန်းမှရရှိလာသောအမြတ်ငွေများကိုလည်း မြန်မာနိုင်ငံတော်အတွင်း အခြားခွင့်ပြုထားသည့် စီးပွားရေးလုပ်ငန်းများတွင် ပြန်လည်ရင်းနှီးမြှုပ်နှံသွားရန်ရည်ရွယ်ပါသည်။

သို့ဖြစ်ပါ၍ နိုင်ငံတော်အတွင်း ရသင့်ရထိုက်သောအခွန်ဘဏ္ဍာငွေများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်အခွင့်အလမ်းများရရှိစေရန်အတွက်လည်းကောင်း၊ မြန်မာနိုင်ငံတွင် သဘာဝအခြေခံခရီးသွားအပန်းဖြေလုပ်ငန်း တိုးတက်ဖွံ့ဖြိုးလာစေရန်အတွက်လည်းကောင်း၊ နိုင်ငံသားများ စီးပွားရေးဖွံ့ဖြိုးတိုးတက်စေခြင်း အလို့ငှာလည်းကောင်း၊ မိမိတို့ THIRI MULTI AGRICULTURAL CO.,LTD. ၏ မြန်မာနိုင်ငံ

သားများ ရင်းနှီးမြှုပ်နှံမှုခွင့်ပြုမိန့်လျှောက်ထားခြင်းကို လက်ခံစဉ်းစားပေးပါရန်နှင့် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ အခွန်ဆိုင်ရာကင်းလွတ်ခွင့်များနှင့် သက်သာခွင့်များကိုလည်း ပေးပါရန် ရိုသေလေးစားစွာဖြင့် လျှောက်ထားအပ်ပါသည်။

လျှောက်လွှာနှင့်အတူ အောက်ဖော်ပြပါအထောက်အထားစာရွက်စာတမ်းများကို ပူးတွဲတင်ပြအပ်ပါသည်။

၁။ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုပြုလုပ်ပါရန် ကမကထပြုသူ၏ လုပ်ငန်းဆောင်ရွက်ရန်အဆိုပြုချက်၊

၂။ လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးအထောက်အထားများ၊

၃။ ကုမ္ပဏီ၏ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ၊

၄။ ဘဏ္ဍာရေးအချက်အလက်များနှင့် ပတ်သက်၍ တွက်ချက်မှုဇယားများ၊

လေးစားစွာဖြင့်

ဒေါ်သီရိဆွေ

အုပ်ချုပ်မှုဒါရိုက်တာ

Thiri Multi Agricultural Co.,Ltd.

မိတ္တူကို–

–ရုံးလက်ခံ




**THIRI MULTI AGRICULTURAL CO., LTD.**
No. (16), Corner of Ngu War St., and Aye Yeik Mon 7th St., Block-5, Se Hman Kane Part-3, Hlaing Tsp, Yangon.
Tel:+951 531077, 532088, Fax:+951 512899 E-mail: thiriswe@myanmarwingate.com, thiri.multirading@gmail.com

## ဝန်ထမ်းများသက်သာချောင်ချိရေးနှင့် သာယာပျော်ရွှင်ရေးတင်ပြချက်များ

၁။ အလုပ်သမားများ၏လစာကို အမှတ်တကယ်ဖြစ်ပေါ်လျက်ရှိနေသောကာလပေါက်ဈေးနှုန်းများဖြင့် တွက်ချက်ပေးသွားပါမည်။

၂။ ဝန်ထမ်းများ၏လစာအပြင် ရက်မှန်ကြေး၊ ရက်ပိုကြေးများပေးအပ်ခြင်း၊ နှစ်သစ်ကူးကာလများတွင် ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ပေးခြင်းများကို ပြုလုပ်ပေးသွားပါမည်။

၃။ အလုပ်သမားများ၏ အလုပ်လုပ်ချိန်ကိုလည်း မြန်မာနိုင်ငံအလုပ်သမားများ ညွှန်ကြားမှုဦးစီးဌာနက တရားဝင်ပြဌာန်းထားသည့် တစ်နေ့အလုပ်ချိန် ၈–နာရီ သတ်မှတ်ထားပါသည်။

၄။ အလုပ်သမားများ၏ ကျန်းမာရေးအတွက် ဆရာဝန်များ၊ ကျန်းမာရေးစစ်ဆေးရေးမှူးများကို ခန့်အပ်၍ အချိန်မှန် စစ်ဆေးခြင်းများကို ပြုလုပ်ပေးပါမည်။

လေးစားစွာဖြင့်

ဒေါ်သီရိဆွေ
အုပ်ချုပ်မှုဒါရိုက်တာ
Thiri Multi Agricultural Co.,Ltd.




# THIRI MULTI AGRICULTURAL CO., LTD.

No. (16), Corner of Ngu War St., and Aye Yeik Mon 7th St., Block-5, Se Hman Kane Part-3, Hlaing Tsp, Yangon.
Tel:+951 531077, 532088, Fax:+951 512899 E-mail: thiriswe@myanmarwingate.com, thiri.multirading@gmail.com

## ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် ဆောင်ရွက်ထားရှိမည့်အစီအစဉ်တင်ပြခြင်း

မိမိတို့၏ Thiri Multi Agricultural Co.,Ltd.သည် အပန်းဖြေ Ecologe/Bangalow များ တည်ဆောက်၍ Ecotourism လုပ်ငန်းလုပ်ကိုင်ရာတွင် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန်အတွက် အဆောက်အဦ မြေနေရာအတွင်း သန့်စင်ခန်းများထားရှိခြင်း၊ အမှိုက်ပုံးများထားရှိခြင်း၊ အနီးဝန်းကျင်ရှိ သဘာဝချောင်းများ ထိခိုက်မှုမရှိစေရန်ကာကွယ်ခြင်း၊ ရေနုတ်မြောင်းများပြုလုပ်ပြီး ရေစီးရေလာကောင်းမွန်အောင် ပြုပြင်ခြင်းလုပ်ငန်းများကို အစဉ်ပြုလုပ်မည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

ခရီးသွားအပန်းဖြေစခန်းလုပ်ငန်းမှထွက်ရှိလာမည့် ဘေးထွက်စွန့်ပစ်ပစ္စည်းများအား သတ်မှတ်ချက်နှင့် အညီစွန့်ပစ်ခြင်း၊ ရေဆိုးများအား သန့်စင်အောင်နိုင်ငံတကာမှသတ်မှတ်ထားသော စံချိန်စံညွှန်းများနှင့်အညီ ဆောင်ရွက်ပြီးမှသာ စွန့်ပစ်ခြင်း၊ အမှိုက်များကို စနစ်တကျစွန့်ပစ်ခြင်းနှင့် သက်ဆိုင်ရာအဖွဲ့အစည်းများမှ ချမှတ်ထားသော စည်းမျဉ်း၊ စည်းကမ်းများကိုလိုက်နာမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

(signature)

ဒေါ်သီရိဆွေ
အုပ်ချုပ်မှုဒါရိုက်တာ
Thiri Multi Agricultural Co.,Ltd.

# Thiri Multi Agricultural Co.,Ltd.




သဘာဝအခြေခံခရီးသွားလုပ်ငန်း(Ecotourism)ဇရိယာအတွင်း
လာရောက်တည်းခိုမည့်ဧည့်သည်များ လုံခြုံမှုရှိစေရေးအတွက်
ဆောင်ရွက်ထားရှိမည့် Safety Plan စီမံချက်

၂၀၁၆ ခုနှစ်၊ ဖေဖော်ဝါရီလ၊ ( ၂၆ ) ရက်။



**THIRI MULTI AGRICULTURAL CO., LTD.**

No. (16), Corner of Ngu War St., and Aye Yeik Mon 7th St., Block-5, Se Hman Kane Part-3, Hlaing Tsp, Yangon.
Tel:+951 531077, 532088, Fax:+951 512899 E-mail: thiriswe@myanmarwingate.com, thiri.multirading@gmail.com

**Thiri Multi Agricultural Co.,Ltd. ၏ သဘာဝအခြေခံခရီးသွားလုပ်ငန်း (Ecotourism) လုပ်ငန်းဆောင်ရွက်မည့် ဧရိယာအတွင်း လာရောက်တည်းခိုမည့်ဧည့်သည်များလုံခြုံမှုရှိစေရေးအတွက် ဆောင်ရွက်ထားရှိမည့် Safety Plan စီမံချက်**

Thiri Multi Agricultural Co.,Ltd. သည် ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ အုတ်တွင်းမြို့နယ်၊ ပေါက်တောကျေးရွာအုပ်စု၊ ပြောင်ချောင်းကျေးရွာအခြေပြု ခပေါင်းသစ်တောကြိုးဝိုင်းအတွင်း အုတ်တွင်း–ပေါက်ခေါင်း–ပြည် ရိုးမဖြတ်ကျော်လမ်း၏(မဟာဗျူဟာကားလမ်း) မိုင်တိုင်(၆၈/၅)နှင့် (၆၈/၄)တို့ကြားတွင် သဘာဝတောကိုအခြေခံပြီး Ecotourism လုပ်ငန်းဆောင်ရွက်ရန် သစ်တောဦးဌာနသို့ အဆင့်ဆင့်တင်ပြခဲ့ပြီး (၁၆/၂/၂၀၁၆)ရက်နေ့တွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အစည်းအဝေး၌ ကုမ္ပဏီအနေဖြင့် ဆောင်ရွက်မည့်လုပ်ငန်းအခြေအနေကို ရှင်းလင်းတင်ပြခဲ့ပါသည်။ ခွင့်ပြုချက်ရရှိပြီးနောက်ပိုင်း စီမံကိန်းလုပ်ငန်းများကို အကောင်ထည်ဖော်ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်းစတင်ဆောင်ရွက်သည့်အခါ ခရီးသွားဧည့်သည်များအား ဝန်ဆောင်မှုပေးရာတွင်လည်းကောင်း၊ ခရီးသွားနယ်မြေအတွင်း လုံခြုံရေးအနေဖြင့် စနစ်တကျစီမံဆောင်ရွက်နိုင်ရန် ဤSafety Plan စီမံချက်အား ရေးဆွဲပါသည်။

**ရည်ရွယ်ချက်**

- Ecotourism လုပ်ငန်းဖော်ဆောင်မည့်ဒေသသို့ လာရောက်တည်းခိုနေထိုင်လည်ပတ်ကြမည့် ဧည့်သည်များ လုံခြုံမှုရှိပြီးစိတ်လက်အေးချမ်းစွာ အပန်းဖြေအနားယူနိုင်ကြစေရန်

**လုံခြုံရေး**

မိမိတို့ကုမ္ပဏီမှ Ecotourism ဆောင်ရွက်မည့်ဒေသအခြေအနေသည် နယ်မြေအရ အေးချမ်းသောနယ်မြေဖြစ်ပါသည်။ တောတောင်ရေမြေကောင်းမွန်ခြင်းကြောင်း သဘာဝသားရိုင်းတိရိစ္ဆာန်များ ကျက်စားရာဒေသဖြစ်ပြီး ဒေသခံကျေးရွာတစ်ရွာနှင့် မလှမ်းမကမ်းဖြစ်ပါသည်။

အောက်ပါအတိုင်း (၃)ပိုင်းဖြင့်ဆောင်ရွက်ပါမည်။

(က) တည်ဆောက်ရေးကာလလုံခြုံရေး

(ခ) ဝန်ဆောင်မှုပေးမည့်ကာလလုံခြုံရေး

(ဂ) အရေးပေါ်အခြေအနေလုံခြုံရေး

**(က) တည်ဆောက်ရေးကာလလုံခြုံရေး**

စီမံကိန်းဧရိယာအတွင်း Ecologe/Bangalow (၁၅)လုံးနှင့် Reception၊ Restuarant အပါအဝင် စုစုပေါင်း(၁၇)လုံး ဆောက်လုပ်သွားမည်ဖြစ်ပြီး စီမံကိန်းဧရိယာကို ပိုမိုလုံခြုံမှုဖြစ်စေရန်အတွက် သီးသန့်နေရာ

တစ်ခုအဖြစ်သတ်မှတ်ပြီး ၁၅' သို့မဟုတ် ၂၀' အကျယ် နယ်နိမိတ်လမ်းကြောင်းတစ်ခုကိုဖေါ်ထုတ်ပြီး အဆိုပါ သီးခြားနယ်နိမိတ်လမ်းကြောင်းတစ်လျှောက်အား အပြင်ပိုင်းလုံခြုံရေးအဖြစ် ထောင့်(၄)ထောင့်တွင် လုံခြုံရေး ကင်းစခန်းများထားရှိ၍ လုံခြုံရေးဝန်ထမ်းများကို နေ့ညမပြတ်ကင်းလှည့်စောင့်ကြည့်သွားမည်ဖြစ်ပါသည်။ ထို့ပြင် လုံခြုံမှုပိုမိုကောင်းမွန်စေရန်အတွက် သွပ်ဆူးကြိုးဖြင့် ခြံစည်းရိုးကာရံမှုပြုလုပ်သွားမည်လည်းဖြစ်ပါသည်။ အဆောက် အဦးဆောက်လုပ်မည့်ဝန်ထမ်းများကိုလည်း သားရိုင်းတိရစ္ဆာန်လုံခြုံရေးသတိအမြဲရှိစေပြီး အန္တရာယ်ကင်းစွာဖြင့် လိုအပ်သလိုကြပ်မတ်၍ ဆောက်လုပ်သွားမည်ဖြစ်ပါသည်။

**(ခ) ဝန်ဆောင်မှုပေးမည့်ကာလလုံခြုံရေး**

ဧည့်သည်များတည်းခိုမှုပြုရာတွင် လုံခြုံမှုစိတ်ချရစေရန်အတွက် တည်းခိုဆောင်တစ်ခုစီ၏ အတွင်းပိုင်းလုံ ခြုံရေးနှင့် Ecotourism Site တစ်ခုလုံးအားဝိုင်းပတ်ထားသော နယ်နိမိတ်စည်းတစ်လျှောက် အပြင်ပိုင်း လုံခြုံရေးဟုသတ်မှတ်၍ (၂)ပိုင်းခွဲခြား၍စနစ်တကျဆောင်ရွက်ပါမည်။ Ecologe (၁) လုံးစီတိုင်းတွင် ကျွမ်းကျင် လုံခြုံရေးဝန်ထမ်း အနည်းဆုံး(၂)ဦးခန့်ထားရှိ၍ ပုံမှန်စောင့်ကြည့်စေပြီး အတွင်း/အပြင် လုံခြုံရေးဆက်သွယ်မှု မပြတ်စေရန် အိုက်ကွန်ဆက်သွယ်ရေးစနစ်ဖြင့် ဆက်သွယ်ပြောကြားနိုင်အောင်စီစဉ်ထားရှိပါမည်။ ထို့ပြင် ဧရိယာ တစ်ခုလုံး လုံခြုံရေးဝန်ထမ်းများကိုတာဝန်ခွဲခြားပြီး အချင်းချင်းသတင်းပေးဆက်သွယ်မှုစနစ်ဖြင့် အဆင့်ဆင့်ကြီးကြပ် ကွပ်ကဲစေပြီးလုံခြုံရေးကွင်းဆက်မပြတ်စေရန် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

**(ဂ) အရေးပေါ်အခြေအနေလုံခြုံရေး**

ဧည့်သည်များအရေးပေါ်အခြေအနေပေါ်ပေါက်ပြီး ဆေးရုံဆေးခန်းများသို့ပို့ဆောင်ရမည်ဆိုပါက ဦးစွာအနီးဆုံး မြို့နယ်ဖြစ်သည့် အုတ်တွင်းမြို့နယ်ဆေးရုံသို့ပို့ဆောင်မည်ဖြစ်ပြီး ၎င်းမှတဆင့် တောင်ငူဆေးရုံ၊ နေပြည်တော်ဆေးရုံ များသို့ အခြေအနေပေါ်မူတည်ပြီး ပို့ဆောင်ပေးမည်ဖြစ်ကာ ပို့ဆောင်နိုင်ရန်ကိုလည်း စီမံကိန်းဧရိယာအတွင်း မော်တော်ယာဉ်များ အဆင်သင့်ထားရှိသွားမည်ဖြစ်ပါသည်။ လူနာအခြေအနေအရ လိုအပ်ပါက ဟယ်လီကော်ပတာဖြင့် နေပြည်တော်(သို့မဟုတ်) ရန်ကုန်မြို့ ဆေးရုံကြီးများသို့ပို့ဆောင်နိုင်အောင် စီစဉ်ထားရှိမည်လည်းဖြစ်ပါသည်။

**အုပ်ချုပ်မှု**

ကုမ္ပဏီမှဒါရိုက်တာအဖွဲ့ဝင်တစ်ဦးကိုယ်တိုင်ရုံးထိုင်၍ သားရိုင်းတိရစ္ဆာန်များနှင့်ပတ်သက်၍ အတွေ့အကြုံရှိပြီး နယ်မြေကျွမ်းကျင်သည့် လုံခြုံရေးဝန်ထမ်းများအား အနီးကပ်ကြီးကြပ်ကွပ်ကဲဆောင်ရွက်သွားမည်ဖြစ်ပါသည်။

**ဆက်သွယ်ရေး**

စီမံကိန်းဧရိယာအတွင်း ဆက်သွယ်မှုမပြတ်စေရန် ''အိုက်ကွန်''ကိုအသုံးပြုဆောင်ရွက်မည့်အပြင် ပြင်ပဒေသအသီးသီးသို့ အချိန်ပြည့်ဆက်သွယ်နိုင်အောင် ဆက်သွယ်ရေးဖုန်းများကို လိုအပ်သလိုစီစဉ်ထားရှိ မည်ဖြစ်ပါသည်။

**နိဂုံး**

Ecotourism Site ဧရိယာတစ်ခုလုံး အန္တရာယ်ကင်းစွာဖြင့်လုံခြုံမှုဖြစ်စေပြီး လာရောက်လည်ပတ် အနားယူကြသောဧည့်သည်များအနေဖြင့် စိတ်ချမ်းမြေ့စွာ တည်းခိုနေထိုင်နိုင်ရန် Safety Plan ကို အသေးစိတ် စီမံဆောင်ရွက်သွားမည်ဖြစ်ပါသည်။




# THIRI MULTI AGRICULTURAL CO., LTD.

No. (16), Corner of Ngu War St., and Aye Yeik Mon 7th St., Block-5, Se Hman Kane Part-3, Hlaing Tsp, Yangon.
Tel:+951 531077, 532088, Fax:+951 512899 E-mail: thiriswe@myanmarwingate.com, thiri.multirading@gmail.com


## မီးဘေးကြိုတင်ကာကွယ်မှုအစီအစဉ်တင်ပြခြင်း

မိမိတို့၏ Thiri Multi Agricultural Co.,Ltd. အနေဖြင့် အပန်းဖြေ Ecologe/Bangalow များ တည်ဆောက်လုပ်ကိုင်ရာတွင် ခေတ်မီမီးငြိမ်းသတ်နည်း စနစ်များကိုထည့်သွင်းအသုံးပြု၍ တည်ဆောက်သွားမည် ဖြစ်ကြောင်းနှင့် အဆောက်အဦမြေနေရာများတွင် မီးဘေးကြိုတင်ကာကွယ်မှုအနေဖြင့် ရေဂါလံ(၂၀၀၀၀) သိုလှောင် နိုင်မည့်ရေကန်တစ်ခု တည်ဆောက်ထားရှိပါမည်။

အပန်းဖြေခရီးသွားလုပ်ငန်းဆောင်ရွက်မည့်မြေနေရာအတွင်း ထောင့်တစ်ဖက်စီတွင် အမြင့်ပေ(၂၀)ရှိ မျှော်စင်(၄)ခုတည်ဆောက်ထားရှိ၍ မီးကင်းစောင့် ခန့်အပ်ထားရှိပါမည်။ ထို့အပြင် Ecologe/Bangalow များအတွင်းတွင် မီးသတ်ဆေးဗူးများချိတ်ဆွဲထားရှိမည့်အပြင် မီးချိတ်၊ မီးပြားများကိုလည်း ထားရှိမည်ဖြစ်ပါသည်။ ကုမ္ပဏီဝန်ထမ်းများအား မီးသတ်သင်တန်းများသို့စေလွှတ်ပြီး ကုမ္ပဏီအတွင်းနှင့် နီးစပ်ရာဒေသခံများအား ဆင့်ပွားသင် တန်းများကိုလည်း မီးသတ်တပ်ဖွဲ့၏ကြီးကြပ်မှုဖြင့် ဆောင်ရွက်သွားမည်ဖြစ်ပါသည်။

အထူးအားဖြင့် Ecotourism Site ဖေါ်ဆောင်မည့်မြေဧရိယာ (၁၀. ၈၀)ကေအား မီးဘေးကာကွယ်နိုင် ရန်အတွက် ဧရိယာတစ်ခုလုံးအားပတ်ချာလည် ပေ ၁၅ ပေ သို့မဟုတ် ၂၀ ပေအကျယ်ရှိ မီးတာလမ်းကို အထူးလုပ်ငန်းတစ်ရပ်အနေဖြင့် ဖောက်လုပ်သွားမည်လည်းဖြစ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်သီရိဆွေ

အုပ်ချုပ်မှုဒါရိုက်တာ

Thiri Multi Agricultural Co.,Ltd.




**THIRI MULTI AGRICULTURAL CO., LTD.**

No. (16), Corner of Ngu War St., and Aye Yeik Mon 7th St., Block-5, Se Hmen Kane Part-3, Hlaing Tsp, Yangon.
Tel:+951 531077, 532088, Fax:+951 512899 E-mail: thiriswe@myanmarwingate.com, thiri.multirading@gmail.com

## ရေဆိုးစွန့်ပစ်မှုအစီအစဉ်နှင့် Waste Water Treatment Plan တပ်ဆင်ထားမှုတင်ပြခြင်း

မိမိတို့၏ကုမ္ပဏီမှ အပန်းဖြေ Ecologe/Bangalow များတည်ဆောက်လုပ်ကိုင်ရာတွင် ထွက်ပေါ်လာမည့် ရေဆိုးများအား ကမ္ဘာ့ကျန်းမာရေး အဖွဲ့အစည်းမှ သတ်မှတ်ပြဋ္ဌာန်းထားသောခေတ်မီနည်းစနစ်များ သုံးစွဲ၍ နောက်ဆုံးပေါ်စက်ပစ္စည်းကိရိယာများကိုသုံးစွဲပြီး ရေဆိုးများကို အများပြည်သူများအား အန္တရာယ်မပြုနိုင်အောင်စနစ်တကျ ပြုလုပ်ဆောင်ရွက်ပြီးမှသာ ရေမြောင်းများအတွင်းသို့ စွန့်ပစ်မည်ဖြစ်ပါသည်။

ခရီးသွားအပန်းဖြေစခန်းလုပ်ငန်းမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း၊ အရည်နှင့် စွန့်ပစ်အဆီများအား မြစ်၊ ချောင်းများအတွင်းသို့ တိုက်ရိုက်မစွန့်ပစ်ဘဲ သန့်စင်ပြီးမှ စွန့်ပစ်သွားမည်ဖြစ်ကြောင်းနှင့် စွန့်ပစ်အဆီ/အရည်/ ပစ္စည်းများစီမံခန့်ခွဲမှု အစီအမံများ ရေးဆွဲထားရှိဆောင်ရွက်သွားမည်ဖြစ်သည့်အပြင် ဘာသာရေးဖွံ့ဖြိုးစေမည့် အစီအစဉ်များကိုလည်း ဒေသခံများနှင့်ပူးပေါင်းပြီး ဆောင်ရွက်ပေးသွားမည်လည်းဖြစ်ပါသည်။

လေးစားစွာဖြင့်

(signature)

ဒေါ်သီရိဆွေ

အုပ်ချုပ်မှုဒါရိုက်တာ

Thiri Multi Agricultural Co.,Ltd.




**THIRI MULTI AGRICULTURAL CO., LTD.**

No. (16), Corner of Ngu War St., and Aye Yeik Mon 7th St., Block-5, Se Hman Kane Part-3, Hlaing Tsp, Yangon.
Tel:+951 531077, 532088, Fax:+951 512899 E-mail: thiriswe@myanmarwingate.com, thiri.multirading@gmail.com

## ခရီးသွားအပန်းဖြေစခန်းလုပ်ငန်းတွင် အမျိုးသားယဉ်ကျေးမှုအား ထိန်းသိမ်းသွားမည်ဖြစ်ကြောင်း ကတိပြုခြင်း

မိမိတို့၏ Thiri Multi Agricultural Co.,Ltd. သည် ခရီးသွားအပန်းဖြေစခန်းလုပ်ကိုင်ရာတွင် အမျိုးသားယဉ်ကျေး မှုနှင့်ပတ်သက်၍ ထိန်းသိမ်းသွားမည်ဖြစ်ပါကြောင်းနှင့် သက်ဆိုင်ရာဌာန၊ အဖွဲ့အစည်း အသီးသီး၏ ယဉ်ကျေးမှုဆိုင်ရာညွှန်ကြားချက်များအတိုင်း သိရှိလိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်သီရိဆွေ
အုပ်ချုပ်မှုဒါရိုက်တာ
Thiri Multi Agricultural Co.,Ltd.




# THIRI MULTI AGRICULTURAL CO., LTD.

No. (16), Corner of Ngu War St., and Aye Yeik Mon 7th St., Block-5, Se Hman Kane Part-3, Hlaing Tsp, Yangon.
Tel:+951 531077, 532088, Fax:+951 512899 E-mail: thiriswe@myanmarwingate.com, thiri.multirading@gmail.com


## C.S.R လူမှုအသင်းအဖွဲ့များအတွက် ပူးပေါင်းဆောင်ရွက်ရန် ကတိပြုခြင်း

မိမိတို့၏ **Thiri Multi Agricultural Company Limited** ၏ ခရီးသွားအပန်းဖြေစခန်း လုပ်ကိုင်ရာတွင် လူမှုရေးဆိုင်ရာ ပူးပေါင်းပါဝင် တာဝန်ယူဆောင်ရွက်မှု **C.S.R** အတွက် အသားတင် အမြတ်ငွေ (၁%)ဖြင့် အကောင်အထည်ဖော် ဆောင်ရွက်ပါမည်။ လုပ်ငန်းလုပ်ကိုင်ရာ ဒေသတဝိုက်တွင် လူမှုလုပ်ငန်းများဖြစ်သည့် ပညာရေး၊ ကျန်းမာရေးစနစ်များ ပိုမိုကောင်းမွန်အောင် သင်ကြားစေနိုင်ရန် အလှူငွေများ ပေးအပ်ခြင်း၊ ဒေသတွင်း ရပ်ကွက်မီးဘေးကင်းဝေးစေရန် မီးသတ်သင်တန်းများ အခမဲ့ ပို့ချခြင်း၊ မီးသတ်ကိရိယာများ တပ်ဆင်ခြင်း၊ လုပ်ငန်းလုပ်ကိုင်ရာ ဒေသအနီးတဝိုက်တွင် ကျေးရွာမီးလင်းစေရန် ဆောင်ရွက်ပေးခြင်းနှင့် အခြားကျေးရွာလူမှုရေးကဏ္ဍ ဖွံ့ဖြိုးတိုးတက်မှုလုပ်ငန်းများကိုလည်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ကတိပြုအပ်ပါသည်။ ထို့ပြင် ဒေသထွက် သစ်၊ဝါး၊ ကြိမ် တို့ဖြင့် ဒေသ လက်ဆောင်ပစ္စည်းများ ထုတ်လုပ်ရောင်းချခြင်းဖြင့် ဝင်ငွေရရှိနိုင်သည့်လုပ်ငန်းများ ဆောင်ရွက်နိုင်ရန် ကိုလည်း လိုအပ်သလို ကူညီဆောင်ရွက်သွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

ဒေါ်သီရိဆွေ
အုပ်ချုပ်မှုဒါရိုက်တာ
**Thiri Multi Agricultural Co.,Ltd**

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ
# ရင်းနှီးမြှုပ်နှံလိုသူ၏ အဆိုပြုချက်
# (ဥပဒေပုဒ်မ ၂ ပုဒ်မခွဲ (ဂ) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်။

စာအမှတ်၊ TMC / စီးပွား / ၀၁၅ / ၂၀၁၅။
ရက်စွဲ၊ ၂၀၁၅ခုနှစ်၊ စက်တင်ဘာလ( ၂၉ )ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံမှုပြုလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်အလက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏ -

| | | | |
|---|---|---|---|
| (က) | အမည် | - | ဒေါ်သီရိဆွေ |
| (ခ) | အဖအမည် | - | ဦးအုန်းမြင့် |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - | ၁၀/သဖရ(နိုင်)၁၀၆၆၅၉ |
| (ဃ) | နေရပ်လိပ်စာ | - | အမှတ်(၁၀၁၁)၊ ရာဇသင်္ဂဟအိမ်ယာ အမှတ်(၁)၊ ဥတ္တရသီရိမြို့နယ်၊ နေပြည်တော် |
| (င) | လူမျိုး၊ ဘာသာ | - | ဗမာ၊ ဗုဒ္ဓဘာသာ |
| (စ) | အဖွဲ့အစည်းအမည် | - | Thiri Multi Agricultural Co.,Ltd. |
| (ဆ) | လုပ်ငန်းအမျိုးအစား | - | သဘာဝအခြေခံစိုက်ပျိုးသွားအပန်းဖြေစခန်း ထူထောင်ခြင်း။ |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | - | အမှတ်(၁၆/၁၈)၊ ဒုဝါလမ်း၊ စိမ့်ကိန်းအပိုင်း(၃)၊ လှိုင်မြို့နယ်၊ ရန်ကုန်။ |

၂။ ဖက်စပ်ပြုလုပ်၍ ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏

| | | | |
|---|---|---|---|
| (က) | အမည် | - | |
| (ခ) | အဖအမည် | - | |
| (ဂ) | နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် | - | |
| (ဃ) | နေရပ်လိပ်စာ | | |
| (င) | လူမျိုး/ဘာသာ | - | |
| (စ) | အဖွဲ့အစည်းအမည် | - | |
| (ဆ) | လုပ်ငန်းအမျိုးအစား | - | |
| (ဇ) | အဖွဲ့အစည်းတည်ရှိရာအရပ် | - | |

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား

| | | | |
|---|---|---|---|
| (က) | ကုန်ထုတ်လုပ်မှုလုပ်ငန်း | - | |
| (ခ) | ဝန်ဆောင်မှုလုပ်ငန်း | - | သဘာဝအခြေခံစိုက်ပျိုးသွားအပန်းဖြေစခန်း ထူထောင်ခြင်း။ |

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ -

| | | | |
|---|---|---|---|
| (က) | နိုင်ငံသားနှင့် နိုင်ငံသားတို့က အစုစပ် လုပ်ကိုင်ဆောင်ရွက်ခြင်း | - | |
| (ခ) | အဖွဲ့အစည်းနှင့် နိုင်ငံသားတို့က ဖက်စပ် လုပ်ကိုင်ဆောင်ရွက်ခြင်း | - | |
| (ဂ) | အဖွဲ့အစည်းနှင့် အခြားအဖွဲ့အစည်းတို့က ဖက်စပ် လုပ်ကိုင်ဆောင်ရွက်ခြင်း | - | |

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ်ဖွဲ့စည်းမည့် –
စီးပွားရေးအဖွဲ့အစည်း ပုံသဏ္ဍာန် –

(က) တစ်ဦးတည်းပိုင် –

(ခ) အစုစပ်လုပ်ငန်း –

(ဂ) လီမိတက်ကုမ္ပဏီ – Thiri Multi Agricultural Co.,Ltd.

(ဃ) သမဝါယမအသင်း –

၆။ ဖက်စပ်/အစုစပ်လုပ်ငန်းဖြစ်ပါက

(က) အစုဝင်တို့ကထည့်ဝင်မည့်အစုငွေ အချိုးအစားနှင့်ပမာဏ –

(ခ) အကျိုးအမြတ်ခွဲဝေမည့်အချိုးအစား –

(ဂ) အစုဝင်များ၏ တာဝန်နှင့်လုပ်ပိုင်ခွင့်များ –
(နေရာမလုံလောက်က သီးခြားစာရွက်ဖြင့်ဖော်ပြရန်)

၇။ သမဝါယမအသင်း/လီမိတက် ကုမ္ပဏီ ဖြစ်ပါက

(က) ခွင့်ပြုမတည်ငွေရင်း – ကျပ် ၅၀၀၀၀၀၀၀၀ိ/-(ကျပ်သန်းငါးရာတိတိ)

(ခ) အစုရှယ်ယာအမျိုးအစား – တစ်စုလျှင် ကျပ် ၁၀၀၀၀ိ/-(တစ်သောင်းတိတိ) တန် သာမန်အစုရှယ်ယာ ၅၀၀၀၀ိ/- (ငါးသောင်းတိတိ)

(ဂ) အစုရှယ်ယာရှင်များထည့်ဝင်မည့် အစုရှယ်ယာပမာဏ – ကျပ် ၅၀၀၀၀၀၀၀၀ိ/-(ကျပ်သန်းငါးရာတိတိ) တစ်စုလျှင် ကျပ် ၁၀၀၀၀ိ/-တန်အစုရှယ်ယာ ၅၀၀၀၀ိ/-သာမန်အစုရှယ်ယာ ခွင့်ပြုမိန့်ရရှိပြီးပါက လိုအပ်သော ရင်းနှီးငွေများကို ထပ်မံထည့်သွင်းသွားမည်ဖြစ်ပါသည်။

၈။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အဖွဲ့အစည်းနှင့်သက်ဆိုင်သောအချက်အလက်များ –

| | | ကျပ် (၀၀၀) | စုစုပေါင်းကျပ် |
|---|---|---|---|
| (က) | မတည်ငွေရင်းပမာဏ (ကျပ်) | | |
| (၁) | ငွေပမာဏ | ၁၅၀၂၄၀ | ၁၅၀၂၄၀၀၀၀ |
| (၂) | ဟိုတယ်လုပ်ငန်းသုံးပစ္စည်းများ (ပြည်တွင်း) (နဆတ ၃) | ၆၃၀၂၅ | ၆၃၀၂၅၅၀၀ |
| (၃) | အဆောက်အဦး (နောက်ဆက်တွဲဇယား-၂) | ၂၈၃၃၉၀ | ၂၈၃၃၉၀၀၀၀ |
| (၄) | မြေအသုံးချမှုပရီမီယံကြေးနှင့် မှတ်ပုံတင်ကြေး (မြေငှားခ) | ၈၆၄ | ၈၆၄၀၀၀ |
| (၅) | ဆောက်လုပ်ရေးပစ္စည်းများ (နောက်ဆက်တွဲဇယား - ၂) | - | - |
| (၆) | အခြား (ပရိဘောဂ) | | |
| | စုစုပေါင်းထည့်ဝင်ရင်းနှီးငွေ | ၄၉၇၅၁၉ | ၄၉၇၅၁၉၅၀၀ |

ဆောက်လုပ်ရေးပစ္စည်းများနှင့်အပန်းဖြေစခန်း(Bangalow)သုံးပစ္စည်းများကို ပြည်တွင်းတရားဝင်ကုမ္ပဏီများမှ ဝယ်ယူမည်ဖြစ်ပါသည်။

(ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည် (၀၀၀) ကျပ်

(၁) ဆောက်လုပ်ရေးပစ္စည်းများ၏ တန်ဖိုးပမာဏ

(၂) ဟိုတယ်လုပ်ငန်းသုံး ပစ္စည်းများ

(၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ

(ဂ) တည်ဆောက်မှုကာလ - (၁၅)လ

(ဃ) ပမာဏစုံစမ်းလေ့လာမှုပြုလုပ်မည့်ကာလ - (၃)လ

(င) တည်ဆောက်မှု စတင်မည့်အချိန် - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရရှိသည့်နေ့မှ စတင်ဆောင်ရွက်သွားမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သောအချက်အလက်များ

(က) လုပ်ငန်းအမျိုးအစား - သဘာဝအခြေခံ အပန်းဖြေစခန်းထူထောင်ခြင်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်ဒေသများ - ခပေါင်းသစ်တောကြိုးဝိုင်းအကွက်အမှတ်(၈၁၊၈၃)အတွင်းရှိ ဇရိယာ(၁၀.၈၀)ကေး‌ပြောင်ချောင်းကျေးရွာအနီး အုတ်တွင်းမြို့နယ်၊ တောင်ငူခရိုင်၊ ပဲခူးတိုင်းဒေသကြီး။

(ဂ) ဆောင်ရွက်မည့်ပုံနည်းစနစ် - ဝန်ဆောင်မှုလုပ်ငန်း

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက်-

၁။ ဒီဇယ်ဆီ - ဂါလံ (၅၀၀၀)

၂။ ဓါတ်ဆီ - ဂါလံ (၄၀၀)

၃။ စက်ဆီ၊ချောဆီ - ဂါလံ (၁၅၀)

(င) နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက်-

အသုံးပြုမှု - မြင်းကောင်ရေ

၁။ လျှပ်စစ်ဓာတ်အား - (315)KVA

၂။ ဒီဇယ်ဆီ အင်ဂျင်စက်အင်အား - 300 KVA နှင့် 60 KVA

၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား -

၄။ သဘာဝဓါတ်ငွေ့သုံးစက်အား -

၅။ ပေးပို့သည့်အခြားအား -

(ရေအား/လေအားစသည်များ)

(စ) နှစ်စဉ် ရေလိုအပ်ချက်-

၁။ တစ်နေ့ ရေလိုအပ်ချက် - ဂါလံ(၃၀၀၀)

၂။ တစ်နှစ် ရေလိုအပ်ချက် - ဂါလံ(၁၀၉၅၀၀၀)

(ဆ) နှစ်စဉ်လုပ်ငန်းသုံးပစ္စည်း/ကုန်ကြမ်းလိုအပ်ချက် - သဘာဝအခြေခံခရီးသွားအပန်းဖြေဝန်ဆောင်မှုလုပ်ငန်းဖြစ်ခြင်းကြောင့် သဘာဝရေမြေတောတောင်များသည် ကုန်ကြမ်းအရင်းအမြစ်များဖြစ်ပါသည်။

(ဇ) အဆောက်အဦးလိုအပ်ချက် - ၂ ခန်းတွဲ(Ecologe/Bangalow) ၁၅လုံး။ (Reception Building)(၁)လုံး၊ (Restaurant Building)(၁)လုံး

(ဈ) မြေနေရာအမျိုးအစားနှင့် အကျယ်အဝန်းလိုအပ်ချက် - သစ်တောဦးစီးဌာနပိုင်မြေ(၁၀.၈)ကေ

(ည) ခန့်မှန်းထုတ်လုပ်မည့်ကုန်ပစ္စည်း/ဝန်ဆောင်မှု - နောက်ဆက်တွဲဇယား - ၅

(ဋ) ရောင်းချမည့်နည်းစနစ် -

၁၀။ နှစ်စဉ်ထုတ်လုပ်မှု / ဝန်ဆောင်မှုနှင့်စပ်လျဉ်းသောအချက်အလက်များ –

| | | ခန့်မှန်းခြေ | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | လုပ်ငန်းလည်ပတ်ရန်လိုအပ်မည့်ကျပ်ငွေ | နောက်ဆက်တွဲဇယား – ၇ | |
| (ခ) | လိုအပ်မည့် နိုင်ငံခြားသုံးငွေ | – | |
| (ဂ) | ရရှိမည့် နိုင်ငံခြားသုံးငွေပမာဏ | – | |
| (ဃ) | ပြည်ပသို့တင်ပို့ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုး | – | |
| (င) | နှစ်စဉ်ပြည်တွင်း၌ ရောင်းချနိုင်မည့် ကုန်ပစ္စည်း/ ဝန်ဆောင်မှုတန်ဖိုး | နောက်ဆက်တွဲဇယား – ၇ | |

၁၁။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းတွင် လိုအပ်မည့်အမှုထမ်းစာရင်း –

| | | |
|---|---|---|
| (က) | ပြည်တွင်းမှလိုအပ်မည့် အမှုထမ်းများ | နောက်ဆက်တွဲဇယား – ၆ |
| (ခ) | နိုင်ငံခြားမှလိုအပ်သည့် ကျွမ်းကျင်သူနှင့် အတတ်ပညာရှင်များ | – |

၁၂။ စီးပွားရေးတွက်ချေကိုက်မှုနှင့် စပ်လျဉ်းသော အချက်အလက်များ

| | | ခန့်မှန်းခြေ | |
|---|---|---|---|
| | | ကျပ်ငွေ | နိုင်ငံခြားငွေ |
| (က) | နှစ်စဉ်ဝင်ငွေရရှိမှု | နောက်ဆက်တွဲဇယား – ၇ | |
| (ခ) | နှစ်စဉ်လုပ်ငန်းကုန်ကျစရိတ် | နောက်ဆက်တွဲဇယား – ၇ | |
| (ဂ) | နှစ်စဉ်အသားတင်အမြတ် | နောက်ဆက်တွဲဇယား – ၇ | |
| (ဃ) | နှစ်အလိုက် ရင်းနှီးမြှုပ်နှံမှု | နောက်ဆက်တွဲဇယား – ၉ | |
| (င) | အရင်းကြေကာလ | နောက်ဆက်တွဲဇယား – ၉ | |
| (စ) | အခြားအကျိုးအမြတ်များ | နောက်ဆက်တွဲ – ၁၀ | |
| (ဆ) | အလုပ်အကိုင်အသစ်များပေါ်ပေါက်လာမည့် အခြေအနေ | နောက်ဆက်တွဲ – ၆ | |

၁၃။ ဆောင်ရွက်ရန်အဆိုပြုချက်နှင့် စပ်လျဉ်းသည့် အထောက်အထားများ –

အဆိုပြုထားသည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအတွက် အောက်ဖော်ပြပါ အထောက်အထားများကို ပူးတွဲတင်ပြအပ်ပါသည်။

(က) ပဋိညာဉ်စာချုပ်မူကြမ်း

(ခ) လုပ်ငန်းပိုင်းနှင့် ငွေရေးကြေးရေးဆိုင်ရာ အထောက်အထားများ

(ဂ) သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ

(ဃ) လက်ရှိဖွဲ့စည်းပြီး အဖွဲ့အစည်းဖြစ်ပါက လက်ရှိအခြေအနေနှင့် ပြင်ဆင်ဖွဲ့စည်းမည့်အခြေအနေ အထောက်အထားများ

လက်မှတ် ။ ။ [signature]

အမည် ။ ။ ဒေါ်သီရိဆွေ

ရာထူး ။ ။ အုပ်ချုပ်မှုဒါရိုက်တာ

Thiri Multi Agricultural Co.,Ltd.

နောက်ဆက်တွဲ (၁)

| LIST OF EXCUTIVES OF THIRI MULTI AGRICULTURE COMPANY LIMITED. | | | | | | |
|---|---|---|---|---|---|---|
| Sr. No | Name | Citizenship N.R.C No. | Designation | Address | Amount of Capital | % |
| | THIRI MULTI AGRICULTURAL COMPANY LIMITED. | | | ကို ကိုယ်စားပြုသူများ | Ks. 500,000,000 | 100% |
| ၁ | ဒေါ်သီရိဆွေ | ၁၀/သဖရ(နိုင်) ၁၀၆၆၅၉ | အုပ်ချုပ်မှုဒါရိုက်တာ | အမှတ်(၁၀၁၁)၊ ရာဇသင်္ဂဟအိမ်ယာအမှတ်(၁)၊ ဥတ္တရသီရိမြို့နယ်၊ နေပြည်တော်။ | | |
| ၂ | ဦးကျော်သီဟ | ၁၀/သဖရ(နိုင်) ၀၉၁၉၂၁ | ဒါရိုက်တာ | အမှတ်(B-8)၊ Palm Court Villa ၊ကျိုက်ဝိုင်းဘုရားလမ်းနှင့် မင်းဓမ္မလမ်းထောင့်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။ | | |
| ၃ | ဒေါ်နုနုဆွေ | ၁၂/ရကန(နိုင်) ၀၁၀၄၄၃ | ဒါရိုက်တာ | အမှတ်(၁၀၁၁)၊ ရာဇသင်္ဂဟအိမ်ယာအမှတ်(၁)၊ ဥတ္တရသီရိမြို့နယ်၊ နေပြည်တော်။ | | |
| ၄ | ဒေါ်ကြူကြူသွင် | ၁/မကန(နိုင်) ၀၁၄၀၅၂ | ဒါရိုက်တာ | အမှတ်(၁/၂)၊ ပဏ္ဍိတလမ်း၊ ရှင်စောပုရပ်၊ စမ်းချောင်းမြို့နယ်၊ ရန်ကုန်။ | | |

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

သစ်တောဦးစီးဌာန

နှင့်

**Thiri Multi Agricultural Co.,Ltd.**

တို့၏

သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်းဆောက်လုပ်နိုင်ရန်

မြေ (၁၀ . ၈၀)ဧကအား နှစ်ရှည်မြေငှားရမ်းခြင်း

နှစ်ဘက်သဘောတူစာချုပ်

ရက်စွဲ၊ ၂၀၁၆ ခုနှစ် ၊ လ၊ ( )ရက်။

ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ အုတ်တွင်းမြို့နယ်၊ ခပေါင်းသစ်တောကြိုးဝိုင်း အကွက်အမှတ်(၈၁၊ ၈၃)အတွင်းရေိယာ (၁၀ • ၈၀)ဧကတွင် သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်း ဆောင်ရွက်ရန်အတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် **Thiri Multi Agricultural Co.,Ltd.** ကုမ္ပဏီတို့အကြား ချုပ်ဆိုသည့် နှစ်ရှည်မြေငှားရမ်းခြင်းသဘောတူစာချုပ်

ဤပဋိညာဉ်စာချုပ်(နောင်တွင် "သဘောတူစာချုပ်"ဟုခေါ်ဆိုရမည်)ကို ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ၊ ( )ရက်နေ့တွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၊ နေပြည်တော်၊ ရုံးအမှတ်(၃၉)တွင် တည်ရှိသော၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာနလက်အောက်ရှိ ဒေါက်တာညီညီကျော်၊ ညွှန်ကြားရေးမှူးချုပ်ကိုယ်စားပြုသော သစ်တောဦးစီးဌာနမှ (နောင်တွင်"အငှားချထားသူ" ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက ၎င်း၏ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟု မှတ်ယူရမည်)ကတစ်ဖက်

နှင့်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ ကုမ္ပဏီများအက်ဥပဒေအရ မှတ်ပုံတင်ဖွဲ့စည်းထားသော အများနှင့်မသက်ဆိုင်သောကုမ္ပဏီဖြစ်ပြီး အုတ်တွင်းမြို့နယ်၊ ခပေါင်းသစ်တောကြိုးဝိုင်းအတွင်း (၁၀ • ၈၀)ဧကတွင် သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်းကိုယ်စားပြုသော ဒေါ်သီရိဆွေ၊ အုပ်ချုပ်မှုဒါရိုက်တာ၊ Thiri Multi Agricultural Co.,Ltd. (ဤမှနောင်တွင် "အငှားချထားခြင်းခံရသူ"ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ၎င်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဥပဒေအရ လွှဲအပ်ခြင်းခံရသူများ ပါဝင်သည်ဟုမှတ်ယူရမည်) က ဤစာချုပ်ကို အခြားတစ်ဖက် တို့သည် သဘောတူစာချုပ်ကို အောက်ပါအတိုင်း စည်းကမ်းချက်များနှင့်အညီ ပြုလုပ်ချုပ်ဆို ကြပါသည်။

**အပိုဒ်၊၁– ရည်ရွယ်ချက်**

၁–၁ "အငှားချထားသူ"သည် မိမိတရားဝင်အမည်ပေါက် ပိုင်ဆိုင်သော(၁၀ • ၈၀)ဧကအား တရားဝင်ပိုင်ဆိုင်သူဖြစ်ပါသည်။ အငှားချထားသည့်မြေနှင့်စပ်လျဉ်း၍ မြေပုံနှင့် မြေပိုင်ဆိုင်မှုအထောက်အထားများကို နောက်ဆက်တွဲ(က )ဖြင့် ပူးတွဲဖော်ပြပါသည်။

၁–၂ "အငှားချထားခြင်းခံရသူ" သည် "အငှားချထားသူ"ပိုင် အငှားချထားသည့်မြေကို နှစ်ရှည်ငှားရမ်းပြီး အခန်း(၂)ခန်းပါ Bangalowများကို နောက်ဆက်တွဲ(ခ)ဖြင့် ပူးတွဲဖော်ပြထားသော အကွက်ချပုံစံ(Site Plan)နှင့် အဆောက်အဦအမျိုးအစားအလိုက် အရေအတွက်နှင့် ပုံစံ (Drawing) များအတိုင်း သဘာဝအပန်းဖြေစခန်း Resort/Banglow များဆောက်လုပ်ရန်ဖြစ်သည်။

**အပိုဒ်-၂ ရင်းနှီးမြှုပ်နှံမှု**

၂-၁ "အငှားချထားခြင်းခံရသူ"သည် အဆိုပြုလုပ်ငန်းအား ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာငွေကျပ် (၉၀၀၀၀၀၀၀၀) (သိန်းငါးထောင်) ထည့်ဝင်၍ လုပ်ကိုင်ဆောင်ရွက်မည် ဖြစ်ပါသည်။

**အပိုဒ်-၃ ကိုယ်စားပြုခြင်းနှင့် အာမခံခြင်း**

၃-၁ ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် စာချုပ်ဝင်များအနက် "အငှားချထားသူ"သည် ငှားရမ်းမည့်( ၁၀ . ၈၀ )ဧကကို တရားဝင်ပိုင်ဆိုင်ကြောင်းနှင့် ၂၀၁၅ ခုနှစ်၊ ဧပြီလ( ၇ )ရက်နေ့တွင် ကျင်းပပြုလုပ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ စီမံခန့်ခွဲမှုကော်မတီ ၏ ( ၅/၂၀၁၅ )ကြိမ်မြောက်အစည်းအဝေးဆုံးဖြတ်ချက်အရ လုပ်ထုံးလုပ်နည်းနှင့်အညီ နှစ်ရှည်မြေငှားရမ်းရန် ခွင့်ပြုမိန့်ရရှိပြီးဖြစ်ပါသည်။ (နောက်ဆက်တွဲ - ဂ)

၃-၂ "အငှားချထားခြင်းခံရသူ"သည် ဤသဘောတူစာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ရန် ငွေကြေးအင်အားပြည့်စုံသူဖြစ်ကြောင်း အာမခံပါသည်။ အငှားချထားသူနှင့် အငှားချထားခြင်းခံရသူတို့သည် ဤသဘောတူစာချုပ်တွင် လက်မှတ်ရေးထိုးရန် ဥပဒေအရလုပ်ပိုင်ခွင့်ရှိသော အခွင့်အာဏာရှိကြသူများဖြစ်ကြောင်း အသီးသီးကိုယ်စားပြုအာမခံကြပါသည်။

**အပိုဒ်-၄ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ**

၄-၁ ဤသဘောတူစာချုပ်ပါ စည်းကမ်းသတ်မှတ်ချက်များအတိုင်း လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အတွင်း သက်ဆိုင်ရာအစိုးရဌာနအာဏာပိုင် အဖွဲ့အစည်းများထံမှ ရယူရန်လိုအပ်သော အတည်ပြုချက်များ၊ ခွင့်ပြုမိန့်များရရှိပြီးမှသာ လုပ်ငန်းအကောင်အထည်ဖော်ဆောင်ရွက်ရန် သတ်မှတ်ထားပါသည်။

**အပိုဒ်-၅ အငှားချထားသည့်မြေနှင့် မြေငှားရမ်းခြင်းသက်တမ်းကာလ**

၅-၁ အငှားချထားသည့်မြေတည်နေရာသည် ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်ကိုယ်စား၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနက စီမံခန့်ခွဲပိုင်ခွင့်ရှိသော၊ ပဲခူးတိုင်းဒေသကြီး၊ တောင်ငူခရိုင်၊ အုတ်တွင်းမြို့နယ်၊ ခပေါင်းသစ်တောကြိုးဝိုင်းဟု သတ်မှတ်ထားသောမြေရှိ နောက်ဆက်တွဲ (က)ဖြင့် ဖော်ပြထားသောမြေပုံတွင် အမှတ်အသားပြထားသည့် ဘောင်အတွင်းရှိ မြေဧရိယာ (၁၀. ၈၀)ဧကဖြစ်ပါသည်။

၅-၂ ဤသဘောတူစာချုပ်ပါ မြေငှားရမ်းခြင်းသက်တမ်းကာလမှာ မြေငှားစာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး( ၅၀ )နှစ်ဖြစ်ပြီး တစ်ကြိမ်လျှင်( ၁၀ )နှစ်ဖြင့် သက်တမ်း (၂)ကြိမ်တိုးနိုင်သည်။

၅-၃ မြေငှားရမ်းခြင်းသက်တမ်းတိုးမြှင့်ခြင်းမှာ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

**အပိုဒ် -၆- ငှားရမ်းသက်တမ်းတိုးခြင်းနှင့် မှတ်ပုံတင်ခြင်း**

၆-၁ ဤစာချုပ်ကို စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတွင် မှတ်ပုံတင်ထားရှိရမည်။ သတ်မှတ်ထားသည့် မှတ်ပုံတင်ကြေးကျသင့်ငွေများကို အငှားချထားခြင်းခံရသူမှ ကျခံရမည်ဖြစ်ပါသည်။

**အပိုဒ် -၇ စာချုပ်သက်တမ်း**

၇-၁ ဤစာချုပ်သက်တမ်းမှာ စာချုပ်လက်မှတ်ရေးထိုးချုပ်ဆိုသည့်နေ့မှစ၍ ကနဦး( ၅၀ )နှစ်ဖြစ်သည်။ အငှားချထားခြင်းခံရသူသည် စာချုပ်သက်တမ်းတိုးမြှင့်လိုပါက ကနဦးသက်တမ်းမကုန်ဆုံးမီ အနည်းဆုံး(၃)လကြိုတင်၍ စာဖြင့်အကြောင်းကြားတင်ပြရမည်။ ကနဦး( ၅၀ )နှစ် ငှားရမ်းပြီး နောက်ထပ်သက်တမ်းကာလတစ်ကြိမ်လျှင် (၁၀)နှစ်ဖြင့် (၂)ကြိမ် ထပ်မံတိုးမြှင့်ငှားရမ်းရေးအတွက် နှစ်ဘက်ညှိနှိုင်းဆောင်ရွက်ရမည်။ စာချုပ်သက်တမ်းတိုးမြှင့်ခြင်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ အတည်ပြုချက်ရရှိမှသာ အတည်ဖြစ်စေရမည်။

**အပိုဒ် -၈ အကျိုးသက်ရောက်သည့်နေ့**

၈-၁ ဤသဘောတူစာချုပ်သည် စာချုပ်ဝင်ပုဂ္ဂိုလ်များ နှစ်ဦးနှစ်ဖက်တရားဝင် အတည်ပြုလက်မှတ်ရေးထိုးချုပ်ဆိုသည့်နေ့မှစတင်၍ အကျိုးသက်ရောက်မှုရှိစေရမည်။

**အပိုဒ် -၉ မြေအသုံးချမှုပရီမီယံကြေး**

၉-၁ ''မြေအငှားချထားခြင်းခံရသူ''သည် မြေအသုံးချမှုအတွက် ပရီမီယံကြေးအဖြစ် မြေတစ်ဧကလျှင် ကျပ်(၂၀၀၀၀) ( ကျပ် ၂၁၆၀၀၀ တိတိ)နှုန်းဖြင့် မြေ (၁၀ . ၈၀)ဧကအတွက် ငွေကျပ် (၂၁၆၀၀၀) (ကျပ်နှစ်သိန်းတစ်သောင်းခြောက်ထောင်တိတိ)ကို ''အငှားချထားသူ''သို့ ဤစာချုပ်ကိုနှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း(၆၀)အတွင်းပေးသွင်းရမည်။

၉-၂ မြေအသုံးချမှုပရီမီယံကြေးပေးသွင်းရာတွင် အငှားချထားသူ၏ နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ဖွင့်လှစ်ထားသော ငွေစာရင်းအမှတ်၊ MD-010613 သို့ပေးသွင်းရမည်။

၉-၃ မြေအသုံးချမှုအတွက် ပရီမီယံကြေးကိုသတ်မှတ်ကာလအတွင်း ပေးသွင်းရမည်။ အကယ်၍သတ်မှတ်ကာလထက်နောက်ကျပြီးပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ငွေကျပ် ၂၀၀၀ (ကျပ်နှစ်ထောင်တိတိ) နှုန်းပေးဆောင်ဆောင်ရမည်။

**အပိုဒ်-၁၀ နှစ်စဉ်ငှားရမ်းခပေးချေခြင်း**

၁၀-၁ "အငှားချထားခြင်းခံရသူ"သည် အငှားချထားသည့် မြေဧရိယာ(၁၀ ‧ ၈၀)ဧကအတွက် တစ်ဧကအတွက် တစ်နှစ်လျှင် ၃၀၀၀၀ (ကျပ်သုံးသောင်းတိတိ)နှုန်းဖြင့် ကျပ် ၃၂၄၀၀၀ (ကျပ်သုံးသိန်းနှစ်သောင်း လေးထောင်တိတိ)ကိုအငှားချထားသူထံသို့ ဤစာချုပ်ကို နှစ်ဦးနှစ်ဖက် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ပေးသွင်းရမည်။ နောင်နှစ်များတွင်လည်း နှစ်စဉ် သက်တမ်းမစတင်မီရက်ပေါင်း(၆၀)အတွင်း ကြိုတင်၍ပေးသွင်းရမည်။ အကယ်၍ သတ်မှတ်ကာလထက် နောက်ကျပြီးပေးသွင်းပါက တစ်ရက်လျှင် ဒဏ်ကြေးငွေကျပ် ၅၀၀၀ (ကျပ်ငါးထောင်တိတိ) နှုန်းပေးဆောင်ရမည်။

၁၀-၂ မြေငှားရမ်းခကို( ၅ ) နှစ်လျှင်တစ်ကြိမ် ပြန်လည်ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ်ပြန်လည်ချုပ်ဆိုသည့်အခါ ငှားရမ်းခနှုန်းထားကို ကာလဒေသပေါက်ဈေးနှင့် နှစ်ဦးနှစ်ဖက်ညှိနှိုင်း၍ လက်ရှိစာချုပ်ပါငှားရမ်းခ၏ (၁၀% )နှုန်းထက်မပိုသောနှုန်းထားဖြင့် ပြင်ဆင်သတ်မှတ်မည်ဖြစ်သည်။

**အပိုဒ်-၁၁ အငှားချထားသူ၏ တာဝန်ဝတ္တရားများ**

၁၁-၁ အငှားချထားသူသည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်-

(က) အငှားချထားသည့်မြေအတွက် မြေခွန်ကိုပေးဆောင်ရမည်။

(ခ) လိုအပ်သောခွင့်ပြုချက်များ၊ မှတ်ပုံတင်မှုများ၊ လိုင်စင်များကို သက်ဆိုင်ရာအဖွဲ့အစည်းများထံမှ ရယူရာတွင် ကူညီဆောင်ရွက်ပေးရမည်။

(ဂ) အငှားချထားခြင်းခံရသူက မြေငှားရမ်းလုပ်ကိုင်ခြင်းအတွက် နိုင်ငံတော်အဖွဲ့အစည်းများသို့ ပေးချေရမည့် အခွန်အခများအားလုံးကို မြန်မာကျပ်ငွေဖြင့်ပေးချေနိုင်ရန်အတွက် အငှားချထားသူက ကူညီဆောင်ရွက်ပေးရမည်။

(ဃ) အငှားချထားသည့်မြေကို ပိုမိုတိုးတက်ကောင်းမွန်စေရေးအတွက် လိုအပ်သောတည်ဆောက်မွမ်းမံပြင်ဆင်မှုများပြုလုပ်နိုင်ရန် အငှားချထားခြင်းခံရသူသို့ ခွင့်ပြုပေးရမည်။

(င) အငှားချထားခြင်းခံရသူအနေဖြင့် အငှားချထားစဉ်ကာလအတွင်း မြေကိုငြိမ်းချမ်းစွာနှင့် အေးဆေးစွာအသုံးပြုပိုင်ခွင့်ရပြီး အငှားချထားသူ၏ သဘောအရ (သို့မဟုတ်) အငှားချထားသူ၏ ယုံကြည်အပ်နှံသူတို့၏ ပါဝင်ပတ်သက်မှု ဝင်ရောက်နှောက်ယှက်မှုမရှိစေရ။

**အပိုဒ်–၁၂ အငှားချထားခြင်းခံရသူ၏ တာဝန်ဝတ္တရားများ**

၁၂–၁ "အငှားချထားခြင်းခံရသူ" သည် အောက်ပါတာဝန်ဝတ္တရားများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

(က) အငှားချထားသည့်မြေတွင် အပန်းဖြေနားနေဆောင် Ecologe / Bungalow ဆောင်ရွက်ရန် ရင်းနှီးမြှုပ်နှံမှုပမာဏ မြန်မာငွေကျပ်သန်း ၅၀၀ (ကျပ်သန်းငါးရာတိတိ)ဖြင့် တည်ဆောက်ပြီး၊ Ecotourism လုပ်ငန်းကို အငှားချထားခြင်းခံရသူက မိမိစရိတ်ဖြင့်တည်ဆောက်လုပ်ကိုင်ရမည်။

(ခ) အငှားချထားခြင်းခံရသူသည် Ecotourism လုပ်ငန်းများကို သဘောတူ စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ မြေပြုပြင်ကာလ ( ၃ )လနှင့် Ecotourism နားနေဆောင်များ တည်ဆောက်ရေးကာလ( ၁၅ )လ၊ စုစုပေါင်း( ၁၈ )လအတွင်းပြီးစီးအောင် တည်ဆောက်ဖွင့်လှစ်ရမည်။

(ဂ) အငှားချထားခြင်းခံရသူသည် အဆိုပြုတင်ပြထားသည့် စာချုပ်ပါအဆောက်အဦး အကွက်ချပုံစံ (Site Plan) အဆောက်အဦးအမျိုးအစားအလိုက်၏ အရေအတွက်နှင့် ပုံစံ (Drawing)များအတိုင်းသာ ဆောက်လုပ်သွားမည်ဖြစ်ပြီး ပြောင်းလဲပြင်ဆင်ဆောက်လုပ်လိုပါက အငှားချထားသူထံ(၃)လ ကြိုတင်၍တင်ပြရမည်။ အငှားချထားသူ၏အတည်ပြုချက်ရရှိပြီးမှသာ ဆောက်လုပ်ရမည်။

(ဃ) အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်၏ အပိုဒ်(၉)နှင့် အပိုဒ်(၁၀)တွင် ဖော်ပြထားသည့် မြေအသုံးချမှုပရီမီယံ(Land Use Premium)နှင့် နှစ်စဉ်ငှားရမ်းခငွေများ (Annual Land Lease Rental )ကို ဤသဘောတူစာချုပ်ပါစည်းကမ်းချက်များနှင့်အညီ သတ်မှတ်ထားသည့်ကာလများအတွင်း အငှားချထားသူသို့ မပျက်မကွက်ပေးချေရမည်။

(င) ခွင့်ပြုမိန့်ဖြင့် ငှားရမ်းလုပ်ကိုင်ခွင့်ပြုထားသောမြေကို စာချုပ်သက်တမ်း ကာလအတွင်းထိုလုပ်ငန်းအတွက် အခြားပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ဖြင့်ဆောင်ရွက်ရမည်။

(စ) ဤသဘောတူစာချုပ်အား တည်ဆဲဥပဒေအရ တံဆိပ်ခေါင်းခွန် ကင်းလွတ်ခွင့်(သို့မဟုတ်) သက်သာခွင့်မရရှိသေးလျှင် ထိုက်သင့်သောတံဆိပ်ခေါင်းခွန်များ ထမ်းဆောင်ရမည်။

(ဆ) နိုင်ငံတော်က ချမှတ်သောမူဝါဒများကိုလိုက်နာ၍ တရားဥပဒေနှင့်ငြိစွန်းသောလုပ်ငန်းများကို လုပ်ဆောင်ခြင်းမှ ရှောင်ကြဉ်ရမည်။

(ဇ) အငှားချထားစဉ်အတွင်း မြေခွန်မှအပ လုပ်ငန်းနှင့်သက်ဆိုင်သော အခြားအခွန်အခများကို သက်ဆိုင်ရာဌာနများသို့ အချိန်မှန်မှန်ပေးဆောင်ရမည်။

(ဈ) ဟိုတယ်နှင့် တည်းခိုခန်းလုပ်ငန်းများ ဆောင်ရွက်ခွင့်ရရှိရန်အတွက် ဟိုတယ်နှင့်ခရီးသွားလာရေး လုပ်ငန်းဝန်ကြီးဌာန၏ ခွင့်ပြုမိန့်လိုင်စင်ရယူရမည်။

(ည) အငှားချထားခြင်းခံရသူသည် နိုင်ငံတော်နှင့်သက်ဆိုင်ရာဝန်ကြီးဌာနမှ သတ်မှတ်ထားသည့် စည်းကမ်းချက်များကို လိုက်နာရမည့်အပြင် လောင်းကစားခြင်းလုပ်ငန်းနှင့် မြန်မာ့ယဉ်ကျေးမှုနှင့်ဆီလျော်မှု မရှိသည့် ဖျော်ဖြေမှုလုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်မှုမရှိရပါ။

**အပိုဒ်–၁၃ အာမခံထားရှိခြင်း**

၁၃–၁ ''အငှားချထားခြင်းခံရသူ''သည် ဤသဘောတူစာချုပ်ပါ လုပ်ငန်းများဆောင်ရွက်ရာတွင် တည်ဆောက်မည့် အဆောက်အဦအတွက် မီးအာမခံနှင့် အခြားလုပ်ငန်းလိုအပ်ချက်အရ လိုအပ်သောအာမခံများကို မြန်မာ့အာမခံဥပဒေနှင့်အညီ ထားရှိရမည်။

**အပိုဒ်–၁၄ ဓာတ်သတ္တု အရင်းအမြစ်များ**

၁၄–၁ ဤသဘောတူစာချုပ်ပါ ငှားရမ်းကာလအတွင်း မမျှော်လင့်ဘဲငှားရမ်းထားသည့် မြေတည်ရှိရာ မြေပေါ် မြေအောက်မှ ဓါတ်သတ္တုအရင်းအမြစ်များ၊ ကျောက်မျက်ရတနာများ၊ ရှေးဟောင်းယဉ်ကျေးမှုအနုပညာ ပစ္စည်းများ၊ သဘာဝသမိုင်းနှင့် သိပ္ပံဆိုင်ရာအရေးပါသောအရာဝတ္ထုများ၊ သဘာဝသယံဇာတများကို မမျှော်လင့်ဘဲတွေ့ရှိလျှင် ''အငှားချထားခြင်းခံရသူ''သည်''အငှားချထားသူ'' သို့ ချက်ချင်းတင်ပြရမည်။ ထိုပစ္စည်းများကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရက ပိုင်ဆိုင်စေရမည်ဖြစ်ပြီး အငှားချထားခြင်း ခံရသူသည် သက်ဆိုင်ရာ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော် အစိုးရအဖွဲ့အစည်းများသို့ လွှဲပြောင်း တင်ပြရမည်။ ထို့အပြင် အထက်ပါပစ္စည်းများအား နိုင်ငံတော်အစိုးရက လွတ်လပ်စွာတူးဖော် ရယူပိုင်ခွင့်ရှိစေရမည်။

**အပိုဒ်–၁၅ စာချုပ်ရပ်စဲခြင်း**

၁၅–၁ စာချုပ်ဝင်တစ်ဖက်ဖက်သည် အောက်ဖော်ပြပါအကြောင်းအချင်းရာ တစ်ရပ်ရပ်ဖြစ်ပေါ်လာလျှင် စာချုပ်ရပ်စဲ ခွင့်ရှိစေရမည်–

(က) လုပ်ငန်းတွင် ကြီးမားစွာဆက်တိုက်အရှုံးပေါ်ပေါက်နေခြင်း၊

(ခ) စာချုပ်ဝင်တစ်ဖက်ဖက်မှ စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန်ပျက်ကွက်သဖြင့် တစ်ဖက်စာချုပ်ဝင်က တရားဝင်စာဖြင့် အကြောင်းကြားသော်လည်း ရက်ပေါင်း(၃၀)အတွင်း လိုက်နာမှုမရှိခြင်း။

(ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ်များပေါ်ပေါက်ပြီး အဆိုပါဖြစ်ရပ်များသည် တဆက်တည်း (၆) လထက် ကျော်လွန်ဖြစ်ပွားခြင်း။

(ဃ) လုပ်ငန်း၏ မူလရည်မှန်းချက်များကို ဆက်လက်အကောင်အထည်ဖော်နိုင်စွမ်းမရှိခြင်း။

၁၅-၂ ဤသဘောတူစာချုပ်ပါ စာချုပ်ကိုရပ်စဲလိုကြောင်း နှစ်ဦးနှစ်ဖက်သဘောဆန္ဒဖြင့် တင်ပြလာလျှင် စာချုပ်ရပ်စဲခွင့်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုချက်ရရှိမှသာလျှင် အကျိုးသက်ရောက်မှုရှိစေရမည်။

## အပိုဒ်-၁၆ မြေသို့ပြန်လည်ဝင်ရောက်ခြင်း

၁၆-၁ အငှားချထားခြင်းခံရသူက စာချုပ်ပါစည်းကမ်းချက်များကိုဆောင်ရွက်ရန်(သို့မဟုတ်)လိုက်နာရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ ထိုသို့ပျက်ကွက်ကြောင်း အငှားချထားသူက ချအပ်သောနို့တစ်စာပါကာလများအတွင်း မဆောင်ရွက်မှု(သို့မဟုတ်) မလိုက်နာမှုကို ပြင်ဆင်ပေးရန်ပျက်ကွက်လျှင်သော်လည်းကောင်း၊ အငှားချထားသူသည် ဤသဘောတူစာချုပ်နှင့် သက်ဆိုင်အကျုံးဝင်သော ပစ္စည်းတစ်ရပ်လုံးပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ သဘောတူစာချုပ်သည် ရပ်စဲ၍ဆုံးခန်းတိုင်ရောက်မည်ဟူ၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်သဘောတူညီကြပါသည်။ ဤသို့စာချုပ်ရပ်စဲခြင်းမြေသို့ပြန်လည်ဝင်ရောက်နိုင်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါအငှားချထားသူက အငှားချထားခြင်းခံရသူထံမှရရှိမည့် အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို မထိခိုက်စေရ။

## အပိုဒ်-၁၇ ပြန်လည်လွှဲပြောင်းပေးအပ်ခြင်း

၁၇-၁ အငှားချထားခြင်းခံရသူသည် ဤသဘောတူစာချုပ်ပါ စာချုပ်သက်တမ်းကုန်ဆုံးသည့်အခါဖြစ်စေ (သို့မဟုတ်) စာချုပ်ရပ်စဲသည့်အခါဖြစ်စေ၊ ယင်းသို့ကုန်ဆုံးသည့်နေ့(သို့မဟုတ်) ရပ်စဲသည့်နေ့မှစ၍ မြေပေါ်ရှိ မူလအငှားချထားစဉ်ကမပါရှိသော အဆောက်အဦများအားလုံးကို အငှားချထားခြင်းခံရသူ၏ အစီအစဉ်ဖြင့် ရက်ပေါင်း(၉၀)အတွင်း ရှင်းလင်းဖယ်ရှားပြီး၊ အငှားချထားသည့်မြေ(၁၀ ◦ ၈၀)ကေကို ကောင်းမွန်သော အနေအထားဖြင့် ပြန်လည်လွှဲပြောင်းပေးအပ်ပါရမည်။

၁၇-၂ အငှားချထားခြင်းခံရသူသည် အထက်အပိုဒ်(၁၇-၁)ပါ သတ်မှတ်ကာလထက် ကျော်လွန်သည့်တိုင် ပြန်လည်အပ်နှံခြင်းမပြုနိုင်ပါက ကျော်လွန်သည့်ကာလအတွက် တစ်ရက်လျှင်ဒဏ်ကြေးငွေ ၁၀၀၀၀၀ (ကျပ်တစ်သိန်းတိတိ)နှုန်းဖြင့် ပေးဆောင်ရမည်။

**အပိုဒ်-၁၈ မလွန်ဆန်နိုင်သောဖြစ်ရပ်များ**

၁၈-၁ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက်ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေးစသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့်ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်း၊ သပိတ်မှောက်ခြင်း၊ စသည်တို့နှင့် စာချုပ်ဝင်တစ်ဖက်ဖက်ကလိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး၊ ယင်းမလွန်ဆန်နိုင်သောဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုထိခိုက်ဆုံးရှုံးစေလျှင် အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခွင့်မရှိစေရ။

၁၈-၂ ထိုသို့မလွန်ဆန်နိုင်သောဖြစ်ရပ် ပေါ်ပေါက်လာပါက၊ ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့်အချိန်မှ (၁၄)ရက်အတွင်း အငှားချထားခြင်းခံရသူသည် အငှားချထားသူသို့ ချက်ချင်းစာဖြင့်ရေးသား အကြောင်းကြားရမည်။ အငှားချထားသူက လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သောဖြစ်ရပ်မြောက်ပြီး၊ မြေအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် မြေငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

**အပိုဒ်-၁၉ အငြင်းပွားမှုများဖြေရှင်းခြင်း**

၁၉-၁ ဤစာချုပ်နှင့်ပတ်သက်၍ အငြင်းပွားမှုတစ်စုံတစ်ရာပေါ်ပေါက်လာပါက နှစ်ဦးနှစ်ဖက်ပြေလည်စွာညှိနှိုင်းဖြေရှင်းရမည်။ ထိုသို့ဖြေရှင်း၍မရပါက ထိုအငြင်းပွားမှုကို ဥပဒေနှင့်အညီ သက်ဆိုင်ရာစီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ ဆုံးဖြတ်ချက်ကိုခံယူရမည်။

**အပိုဒ်-၂၀ ဆွေးနွေးခြင်းနှင့် စာချုပ်ပြင်ဆင်ခြင်း၊ ညှိနှိုင်းခြင်း**

၂၀-၁ လုပ်ငန်းများအကောင်အထည်ဖော်ဆောင်ရွက်ရာတွင် ပေါ်ပေါက်လာသည့် အခြေအနေများ(သို့မဟုတ်) စည်းကမ်းချက်များသည် ဤသဘောတူစာချုပ်ပါစည်းကမ်းချက်များနှင့် ကိုက်ညီမှုမရှိဘဲ ပြင်ဆင်ဖြည့်စွက်ပြောင်းလဲရန် လိုအပ်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ညှိနှိုင်းဆွေးနွေးမှုများပြုလုပ်ပြီး စာချုပ်ကို နှစ်ဦးသဘောတူပြင်ဆင်ချုပ်ဆိုနိုင်သည်။ ထိုပြင်ဆင်ချက်များသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ သဘောတူညီချက်ရရှိမှသာလျှင် အတည်ဖြစ်စေရမည်။

**အပိုဒ်-၂၁ လျှို့ဝှက်ချက်**

၂၁-၁ ဤသဘောတူစာချုပ်ကို လက်မှတ်ရေးထိုးချုပ်ဆိုကြသည့် စာချုပ်ဝင် နှစ်ဦးနှစ်ဖက်စလုံးသည် အရေးကြီးသောစာရွက်စာတမ်းများ၊ သတင်းအချက်အလက်များကို အခြားတတိယအဖွဲ့အစည်းသို့ လွှဲပြောင်းပေးခြင်း

မပြုရ။ သို့ရာတွင် ကုမ္ပဏီ၏ အကျိုးစီးပွားအလို့ငှာ ဒါရိုက်တာအဖွဲ့၏ သဘောတူဆုံးဖြတ်ချက်၊ အငှားချထားသူ၏ ခွင့်ပြုချက်ဖြင့် အခြားအဖွဲ့အစည်းသို့ လွှဲပြောင်းပေးနိုင်ခွင့်ရှိစေရမည်။

**အပိုဒ်-၂၂ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း**

၂၂-၁ အငှားချထားခြင်းခံရသူသည် လုပ်ငန်းဆောင်ရွက်ရမည့်နေရာဒေသ၏ ပတ်ဝန်းကျင်နေရာများအား တည်ဆဲဥပဒေ၊ နည်းဥပဒေများနှင့်အညီ ကောင်းစွာထိန်းသိမ်းကာကွယ်စောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု၊ ရေထုနှင့်မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသောပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီးဆုံးရှုံးခြင်းများအတွက် ကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရမည်။ ရေသန့်စင်နိုင်သော စက်များတပ်ဆင်ပေးခြင်း၊ လေထုညစ်ညမ်းမှုကိုမဖြစ်ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့်ပစ်သည့် အစိတ်အပိုင်းများကို အန္တရာယ်ကင်းရှင်းစေရေးဆိုင်ရာ လိုအပ်သောအကာအကွယ်များ၊ အစီအစဉ်များကို တည်ဆဲဥပဒေနှင့်အညီ ဆောင်ရွက်ထားရှိရမည်။

**အပိုဒ်-၂၃ စာပေးစာယူပြုလုပ်ရန်ကိစ္စ**

၂၃-၁ နို့တစ်စာများ(သို့မဟုတ်) အခြားအချက်အလက်အကြောင်းကြားချက်များကို မြန်မာဘာသာဖြင့်ဖြစ်စေ၊ အင်္ဂလိပ်ဘာသာဖြင့်ဖြစ်စေ ရေးသားပြီး စာတိုက်မှတ်ပုံတင်ချောစာဖြင့်ဖြစ်စေ၊ တဲလက်(စ်)ဖြင့် ဖြစ်စေ၊ ဖက်(စ်)ဖြင့်ဖြစ်စေ၊ အပြည်ပြည်ဆိုင်ရာဆက်သွယ်ရေးနည်းစနစ်ဖြင့်ဖြစ်စေ၊ သက်ဆိုင်ရာအဖွဲ့သို့ ဆက်သွယ်ဆောင်ရွက်နိုင်သည်။ ဆက်သွယ်နိုင်ရန်လိပ်စာမှာ ဤစာချုပ်တွင် ဖော်ပြပါရှိသော အောက်ဖော်ပြပါလိပ်စာအတိုင်းဖြစ်သည်-

(က) "အငှားချထားသူ" အတွက်-

| | | |
|---|---|---|
| (၁) | အမည် | ဒေါက်တာညီညီကျော် |
| (၂) | ရာထူး | ညွှန်ကြားရေးမှူးချုပ် |
| (၃) | လိပ်စာ | ရုံးအမှတ်(၃၉)၊ နေပြည်တော် |
| (၄) | ဖုန်းအမှတ် | ဝ၆၇-၄ဝ၅ဝ၁၅ |
| (၅) | ဖက်(စ်)အမှတ် | ဝ၆၇-၄ဝ၅၄၂၇ |
| (၆) | E.mail | dg.fd@mptmail .net.mm |

(ခ) "အငှားချထားခြင်းခံရသူ"အတွက်-

(၁) အမည် ဒေါ်သီရိဆွေ

(၂) ရာထူး မန်နေဂျင်းဒါရိုက်တာ

(၃) လိပ်စာ အမှတ်(၁၆)၊ ဒုဝါလမ်း၊ ရပ်ကွက်(၅)၊ စီမံကိန်းအပိုင်း(၃)၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(၄) ဖုန်းအမှတ် ၀၉ ၂၄၀၁၀၈၀/ ၀၉ ၂၄၀၀၀၀၂

(၅) E.mail thiriswe@gmail.com

၂၃-၂ ယခုကဲ့သို့ စာရွက်စာတမ်းများကို ပေးပို့ဆက်သွယ်သည့်အခါများတွင် အခြားတစ်ဖက်မှလက်ခံရရှိကြောင်း အထောက်အထားတစ်စုံတစ်ရာရရှိပြီးမှသာ ပေးပို့ခြင်းကိုအတည်ပြုနိုင်သည်။ အကယ်၍ လိပ်စာအပြောင်း အလဲရှိပါက စာဖြင့်အခြားတစ်ဖက်သို့ရေးသားအကြောင်းကြားရမည်။

**အပိုဒ်-၂၄ ဘဏ်အာမခံငွေ**

၂၄-၁ အငှားချထားခြင်းခံရသူမှ လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံငွေအဖြစ် တစ်နှစ်ငှားရမ်းခဖြစ်သော ကျပ် ၃၂၄၀၀၀ (ကျပ်သုံးသိန်းနှစ်သောင်းလေးထောင်တိတိ)အား အငှားချထားသူ၏အမည်ဖြင့် နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ဖွင့်လှစ်ထားရှိသော ငွေစာရင်းအမှတ်၊ MD-010613 တွင် ဘဏ်အာမခံထားရှိပေးရမည်။ အငှားချထားသူသတ်မှတ်ထားသည့်ဘဏ်တွင် သတ်မှတ်ထားသောပုံစံနှင့်အညီ ဘဏ်အာမခံထားရှိပေးရမည်။အဆိုပါဘဏ်အာမခံငွေကို ဤစာချုပ်လက်မှတ် ရေးထိုးပြီး နောက်ရက်ပေါင်း(၃၀)အတွင်း တင်သွင်းရမည်၊အငှားချထားခြင်းခံရသူသည် ငှားရမ်းသည့်ကာလ ပြီးဆုံးသည့်အချိန်တွင် ဘဏ်အာမခံငွေကို ပြန်လည်ထုတ်ယူနိုင်ပါသည်။

၂၄-၂ အငှားချထားခြင်းခံရသူသည် စာချုပ်စည်းကမ်းတစ်ရပ်ရပ်ကို ချိုးဖောက်ပါက "အငှားချထားသူ"မှ အထက် အပိုဒ်(၂၄-၁)ပါ ဘဏ်အာမခံငွေကို သိမ်းယူခွင့်ရှိသည်။

**အပိုဒ်-၂၅ လုပ်ငန်းများလွှဲပြောင်းပေးအပ်ခြင်း**

၂၅-၁ အငှားချထားသောကာလအတွင်း အငှားချထားခြင်းခံရသူသည် မိမိ၏အခွင့်အရေးများ လုပ်ပိုင်ခွင့်များကို အခြားပုဂ္ဂိုလ်အဖွဲ့အစည်းများအား လွှဲပြောင်းပေးခြင်းပြုလုပ်လိုပါက အငှားချထားသူအား ကြိုတင်အသိ ပေးအကြောင်းကြားရမည်။

၂၅-၂ "အငှားချထားသူ"၏ သဘောတူခွင့်ပြုချက်ဖြင့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြ၍ ခွင့်ပြုချက် ရယူဆောင်ရွက်ရမည်။

## အပိုဒ်–၂၆ အထွေထွေ

၂၆–၁ ဤသဘောတူစာချုပ်နှင့်အတူ ပူးတွဲဖော်ပြထားသည့် မြေပုံ၊ မြေရာဇဝင်စာရွက်စာတမ်း၊ အဆောက်အဦ ပုံစံများ၊ အထောက်အထားများ စသည့်နောက်ဆက်တွဲများသည် ဤစာချုပ်၏တစ်စိတ်တစ်ဒေသအဖြစ် မှတ်ယူရမည်။

၂၆–၂ ဤသဘောတူစာချုပ်ကို မိတ္တူနှစ်စောင်တွင် လက်မှတ်ရေးထိုးပြီး စာချုပ်အသီးသီးသည် ဥပဒေအရ တူညီမျှတစွာတရားဝင်လျှက် စာချုပ်ဝင်တစ်ဦးစီအတွက် မူရင်းတစ်စောင်အဖြစ်သတ်မှတ်ရမည်။ ဤသဘောတူစာချုပ်ပါစည်းကမ်းချက်များကို စာချုပ်ဝင်နှစ်ဦးစလုံး၏ တရားဝင်ကိုယ်စားလှယ်များမှ ကိုယ်တိုင် ဖတ်ရှုနားလည်ကြပြီးဖြစ်၍ စာချုပ်ဝင်နှစ်ဦးနှစ်ဖက်တို့သည် နေပြည်တော်၌ အထက်တွင်ဖော်ပြထားသည့် ၂၀၁၆ ခုနှစ်၊ -----------လ၊ ( )ရက်နေ့တွင် အောက်ဖော်ပြပါအသိသက်သေများ၏ ရှေ့မှောက်တွင် မိမိ၏ရုံးတံဆိပ်များ အသီးသီးခပ်နှိပ်လျှက် လက်မှတ်ရေးထိုးချုပ်ဆိုကြပါသည်။

| | |
|---|---|
| **"အငှားချထားသူ" (ကိုယ်စား)** | **"အငှားချထားခြင်းခံရသူ" (ကိုယ်စား)** |
| (ဒေါက်တာညီညီကျော်) | (ဒေါ်သီရိဆွေ) |
| ညွှန်ကြားရေးမှူးချုပ် | အုပ်ချုပ်မှုဒါရိုက်တာ |

**အသိသက်သေများ**

| | |
|---|---|
| **အငှားချထားသူ၏ အသိသက်သေ** | **အငှားချထားခြင်းခံရသူ၏ အသိသက်သေ** |
| (၁) | (၂) |
| အမည် ---------------- | အမည် -------------------- |
| ရာထူး ---------------- | ရာထူး -------------------- |
| လိပ်စာ ---------------- | လိပ်စာ -------------------- |
| "အငှားချထားသူ"(ကိုယ်စား) | "အငှားချထားခြင်းခံရသူ"(ကိုယ်စား) |

## ခပေါင်းသစ်တောကြိုးဝိုင်း ဧရိယာ(၁၀ ‧ ၈၀)ကေ၊
## ပြောင်ချောင်းကျေးရွာ၊ အုတ်တွင်းမြို့နယ်၊ ပဲခူးတိုင်းဒေသကြီး၊
## Thiri Multi Agricultural ကုမ္ပဏီမှ သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်း
## ဆောက်လုပ်မည့် တည်နေရာပြမြေပုံ




စကေး ၄ လက်မ = ၁မိုင်

မြေပုံအမှတ် 94 B_1 & 85 N _ 13

ရည်ညွှန်းချက်

- အကွက်နယ်နိမိတ်
- ချောင်း/ မြောင်
- အုတ်တွင်း - ပေါက်ခေါင်းကားလမ်း
- သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်း ဆောက်လုပ်မည့်တည်နေရာ (၈.၁၄)ကေ အကွက်အမှတ်(၈၁) (၂.၆၆)ကေ အကွက်အမှတ်(၈၃) ပေါင်း(၁၀.၈၀)ဧက

ခန့်မှန်းမြေပုံညွှန်းများ

| | | |
|---|---|---|
| A | A 399887 | (10.80)AC |
| B | A 400886 | |
| C | A 402886 | |
| D | A 404884 | |
| E | A 404884 | |
| F | A 403884 | |
| G | A 403884 | |
| H | A 402884 | |
| I | A 400882 | |
| J | A 399882 | |
| K | A 399883 | |
| L | A 402885 | |
| M | A 399886 | |

Ecologe (Bungalow) များတည်ဆောက်မည့်နေရာများ

# သစ်တောဦးစီးဌာန၊ အုတ်တွင်းမြို့နယ်
# Thiri Multi Agricultural ကုမ္ပဏီမှ ခပေါင်းကြိုးဝိုင်းအကွက်အမှတ်(၈၁၊၈၃)အတွင်း
# သဘာဝအပန်းဖြေစခန်းဆောက်လုပ်မည့် တည်နေရာပြမြေပုံ




စကေး ၄ လက်မ = ၁မိုင်

မြေပုံအမှတ် 94 B_1 & 85 N _ 13

ရည်ညွှန်းချက်

- အကွက်နယ်နိမိတ်
- ချောင်း/ မြောင်း
- အုတ်တွင်း - ပေါက်ခေါင်းကားလမ်း
- သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်း ဆောက်လုပ်မည့်တည်နေရာ (၈.၁၄)ဧက အကွက်အမှတ်(၈၁) (၂.၆၆)ဧက အကွက်အမှတ်(၈၃) ပေါင်း(၁၀.၈၀)ဧက

ခန့်မှန်းမြေပုံညွှန်းများ

| | | | |
|---|---|---|---|
| A | - | A 399887 | (10.80)AC |
| B | - | A 400886 | |
| C | - | A 402886 | |
| D | - | A 404884 | |
| E | - | A 404884 | |
| F | - | A 403884 | |
| G | - | A 403884 | |
| H | - | A 402884 | |
| I | - | A 400882 | |
| J | - | A 399882 | |
| K | - | A 399883 | |
| L | - | A 402885 | |
| M | - | A 399886 | |

ခပေါင်းသစ်တောကြိုးဝိုင်း ရေိယာ(၁၀ ၊ ၈၀)ကေ၊
ပြောင်ချောင်းကျေးရွာ၊ အုတ်တွင်းမြို့နယ်၊ ပဲခူးတိုင်းဒေသကြီး၊
Thiri Multi Agricultural ကုမ္ပဏီမှ သဘာဝအခြေခံခရီးသွားအပန်းဖြေစခန်း
ဆောက်လုပ်မည့် (Site Plan) တည်နေရာပြမြေပုံ




ရည်ညွှန်းချက်

= မော်တော်ကားလမ်း

= ချောင်း

= Ecologe (Bungalow) များတည်ဆောက်မည့်နေရာများ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ 002445

အမျိုးသားစီမံကိန်းနှင့် စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန

# ကုမ္ပဏီမှတ်ပုံတင်လက်မှတ်

အမှတ် ......၁၃၂၄..../ ၂၀၀၇-၂၀၀၈

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေအရ ......သီရိဘက်စုံစိုက်ပျိုးရေး ကုမ္ပဏီ လီမိတက်......

..................................အား ပေးရန်တာဝန် ကန့်သတ်ထားသော လီမိတက်

ကုမ္ပဏီအဖြစ် ၂၀၀၈ နှစ်၊ ဇန်နဝါရီ ......လ၊ ..၂...ရက်နေ့တွင် မှတ်ပုံတင်ထားခြင်းအား

၂၀၁၅ နှစ်၊ .....ဇူလိုင်.....လ၊ ...၂၄ ရက်နေ့မှစ၍ သက်တမ်းတိုး ခွင့်ပြုလိုက်သည်။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)

(မျိုးမင်း ၊ ညွှန်ကြားရေးမှူး)

ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

---

THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR

MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT

# CERTIFICATE OF INCORPORATION

NO. ......1324...... of 2007-2008

I hereby certify that the tenure of THIRI MULTI AGRICULTURAL COMPANY LIMITED ..................incorporated under the Myanmar Companies Act on ......2nd JANUARY, 2008...... is renewed with effected from ......24th JULY, 2015......

**For Director General**

**( Myo Min , Director )**

Directorate of Investment and Company Administration

# ကုမ္ပဏီနှင့်သက်ဆိုင်သည့်အချက်အလက်များ

(က) အုပ်ချုပ်မှုဒါရိုက်တာအမည်၊ ဒေါ်သီရိဆွေ (၁၃/သဖရ (နိုင်) ၁၀၆၆၅၉)

(ခ) ကုမ္ပဏီ ရုံးခန်းလိပ်စာ၊ အမှတ်(၁၆/၁၈)၊ ငုဝါလမ်း၊ အကွက်အမှတ်(၅)၊ စိမ့်ကိန်းအပိုင်း(၃)၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့။

(ဂ) ဆက်သွယ်ရန် ဖုန်းနံပါတ်၊ ၀၁-၅၁၂၈၉၉

(ဃ) ဒါရိုက်တာများ အမည်စာရင်း–

၁။ ဦးကျော်သီဟ
၁၀/သဖရ (နိုင်) ၀၉၁၉၂၁

၂။ ဒေါ်နုနုဆွေ
၁၂/ရကန (နိုင်) ၀၁၀၄၄၃

၃။ ဒေါ်ကြူကြူသွင်
၁/မကန (နိုင်) ၀၁၄၀၅၂

မှတ်ချက် ။

(၁) ဤကုမ္ပဏီမှတ်ပုံတင်လက်မှတ်သည်မှတ်ပုံတင်ရက်စွဲ( ၂-၁-၂၀၁၅ )မှ ( ၁-၁-၂၀၂၀ )ရက်နေ့အထိ(၅)နှစ်သက်တမ်းအတွက်သာ ဖြစ်သည်။ သက်တမ်း မကုန်ဆုံးမီ (၃)လအလိုတွင် သက်တမ်းတိုးရန် ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာနသို့ လျှောက်ထား ရမည်။

(၂) ကုမ္ပဏီ အနေဖြင့် သင်းဖွဲ့မှတ်တမ်းတွင်အဆိုပြု တင်ပြထားသော လုပ်ငန်းရည်ရွယ်ချက်များကိုသာ လုပ်ကိုင်ရမည်။

(၃) သင်းဖွဲ့မှတ်တမ်းပါ ရည်ရွယ်ချက်များသည် သက်ဆိုင်ရာ ပြည်ထောင်စု ဝန်ကြီးဌာန၏ တည်ဆဲဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း များနှင့်အညီ ခွင့်ပြုချက် ရရှိမှသာ ဆောင်ရွက်ခွင့် ရှိမည် ဖြစ်ပါသည်။

(၄) လုပ်ငန်းရည်ရွယ်ချက် ပြောင်းလဲ လုပ်ကိုင်လိုပါက ပြောင်းလဲ လုပ်ကိုင်လိုသည့် လုပ်ငန်း ရည်ရွယ်ချက်များအား သင်းဖွဲ့မှတ်တမ်းတွင် ပြင်ဆင်မှတ်ပုံတင်ရန်အတွက် ဒါရိုက်တာအဖွဲ့(BOD)၏ အထူး အစည်းအဝေး ဆုံးဖြတ်ချက် မှတ်တမ်းနှင့်အတူ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန သို့ လျှောက်ထား ရမည် ။

ညွှန်ကြားရေးမှူးချုပ်(ကိုယ်စား)
(မျိုးမင်း၊ ညွှန်ကြားရေးမှူး)

လာရောက်ထုတ်ယူသည့်ရက်စွဲ
၂၄-၃-၂၀၁၅

FORM XXVI

PARTICULARS OF DIRETORS, MANAGERS AND MANAGING AGENTS AND OF ANY CHANGES THEREIN

(Myanmar Companies Act, See Section 87)

Name of Company : Thiri Multi Agricultural Company Limited. Present by : Daw Thiri Swe,(M.D),

| The Present Christian name or names of surnames | Nationality, National Registration Card No | Usual Residential Address | Other Business Occupation | Changes |
|---|---|---|---|---|
| Daw Thiri Swe, | Myanmar 10/Tha Pha Ya (Naing)-106654 | Ma Pa Kha Quarter,Myitkyina Township, Kachin State. | Merchant | Managing Director |
| Daw Nu Nu Swe, | Myanmar 12/Ya Ka Na (Naing)-010443 | No.(Ka-51),Mingalar 3rd Street,F.M.I City Hlaing Tharyar Township,Yangon. | Merchant | Appointed as Director w.e.f (18-8-2010) |
| U Kyaw Thiha, | Myanmar 10/Tha Pha Ya (Naing)-091921 | Ma Pa Kha Quarter,Myitkyina Township, Kachin State. | Merchant | Director |
| Daw Kyu Kyu Thwin, | Myanmar 1/Ma Ka Na (Naing)-014052 | No.(1/2),Panita Street,Shin Saw Pu Quarter,Sanchaung Township,Yangon. | Merchant | Director |

NOTE . (1) A Complete list of the Directors or Managers or Managing Agents shown as existing in the last particulars.

(2) A note of the changes since the last list should be made in the column for " Changes" by placing against the new Director's name the word " in place of ........ and by writing against any former Director's name the word "dead " " resigned" or as the case may be giving the date of change against the entry

Signature ......................

Managing Director

Designation Thiri Multi Agricultural ......

Dated this 18-8-2010

Myanmar Companies

When a return includes several allotments made on different dates; the actual date of only the first and last of such allotments ...




# FORM VI

## RETURN OF ALLOTMENTS
## THE MYANMAR COMPANIES ACT.

(See Section 104)

(To be filed with the Registrar within one month after the Allotment is made)

Return of allotment from the 23rd, of May, 2008.
on the 23rd, of May, 2008 of the * Thiri Multi Agricultural Company Limited.
made pursuant to Section 104(1)

Number of the shares allotted payable in cash ..... 5,000 Shares
" " " " .....

Nominal amount of the shares so allotted .... 50,000,000/-
" " " " .....

Amount paid or due and payable on each such share ...., 10,000/-
" " " " ..... (Fully Paid Up)

Number of ordinary shares allotted for a consideration other than cash

Nominal amount of the ordinary shares so allotted .....

Amount to be treated as paid on each such share .....

The consideration for which such share have been allotted is as follows:-

---

NOTE: In making a return of allotments under Section 104(1) the Myanmar Companies Act., it is to be noted that-

When a return includes several allotments made on different dates, the actual date of only the first and last of such allotment should be entered at the tip of the front page, and the registration of the return should be effected within one month of the first date.

When a return relates to one allotment only, made on one particular date, that date only should be inserted and the spaces for the second date struck out and the world made substituted for the world "From" after the world "allotments" above.

Here insert name of Company.
Distinguish between preference, ordinary, or other description of shares.

Daw Thiri Swe
Managing Director
ri Multi Agricultural Co., Ltd.



THE GOVERNMENT OF THE REPUBLIC OF THE UNION OF MYANMAR
MINISTRY OF NATIONAL PLANNING AND ECONOMIC DEVELOPMENT
DIRECTORATE OF INVESTMENT AND COMPANY ADMINISTRATION

# CERTIFICATE OF REGISTRATION OF DOCUMENTS

No. 1324 of 2007 - 2008

IN THE MATTER OF THIRI MULTI AGRICULTURAL COMPANY LIMITED.

I do hereby certify that pursuant to the Myanmar Companies Act.

- Memorandum and articles of association.
Special Resolution made on 23-7-2015
Services Fees.
(Change of Objectives.)

Has/Have been this day duly filed and registered in this office

Dated Nay Pyi Taw, this TWENTY -EIGHTH day of JULY ,
Two Thousand and FIFTEEN.

MEMORANDUM OF FEES PAID Registering
For ................................
filing

| | | | | K. P. |
|---|---|---|---|---|
| 1. | Memorandum of Association | ...... | ...... | 50000 - 00 |
| 2. | Article of Association | ...... | ...... | |
| 3. | Notice of situation of registered Office and changes therein | ...... | | |
| 4. | Return of allotments | ...... | ...... | |
| 5. | Annual list of members of share Capital | ...... | ...... | |
| 6. | Balance Sheet | ...... | ...... | |
| 7. | Special or extraordinary resolution | ...... | ...... | 7500 - 00 |
| 8. | Particular of mortgages and charges | ...... | ...... | |
| 9. | Copy of Register of Directors, Managers, or Managing Agents and changes therein | ...... | ...... | |
| 10. | Return of persons authorized to accept Services of process and changes therein | ...... | ...... | |
| 11. | | ...... | ...... | |
| | | Total: | | 57500- 00 |

FOR DIRECTOR GENERAL
(MYO MIN - DIRECTOR)

- 64 - (Obi+Rea) Pa

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ

[illegible] ကုမ္ပဏီ လီမိတက်

၏

# သင်းဖွဲ့မှတ်တမ်း

နှင့်

# သင်းဖွဲ့စည်းမျဉ်းများ



THE MYANMAR COMPANIES ACT

PRIVATE COMPANY LIMITED BY SHARES

# Memorandum Of Association

*AND*

# Articles Of Association

*OF*

[illegible] **COMPANY LIMITED**

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီ

သီရိဘက်စုံစိုက်ပျိုး ရေး ကုမ္ပဏီ လီမိတက်

၏

သင်းဖွဲ့မှတ်တမ်း



ကုမ္ပဏီ၏ အမည်သည် " သီရိဘက်စုံစိုက်ပျိုး ရေး ကုမ္ပဏီ လီမိတက် " ဖြစ်ပါသည်။

ကုမ္ပဏီ၏ မှတ်ပုံတင် အလုပ်တိုက်သည် ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း တည်ရှိရမည်။

ကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ တစ်ဖက်စာမျက်နှာပါအတိုင်း ဖြစ်ပါသည်။

အစုဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

ကုမ္ပဏီ၏ သတ်မှတ်မ-တည်ငွေရင်းသည် ကျပ် ၅၀၀,၀၀၀,၀၀၀/-(ကျပ် သန်း ငါး ရာ တိတိ) ဖြစ်၍ ငွေကျပ်၁၀၀၀၀/-(ကျပ် တစ် သောင်း တိတိ) တန် အစုရှယ်ယာပေါင်း ( ၅၀၀၀၀ ) ခွဲထားပါသည်။ ကုမ္ပဏီ၏ ရင်းနှီးငွေကိုကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေပြဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့် နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

# စက်မှုလက်မှုနှင့်ထုတ်လုပ်မှုလုပ်ငန်း ရည်ရွယ်ချက်

[illegible] ခွင့်ပြုထားသော အောက်ဖော်ပြပါကုန်ပစ္စည်းများကို ထုတ်လုပ်ခြင်း၊ စိုက်ပျိုးခြင်း၊ကြိတ်ခွဲခြင်းနှင့် [illegible] လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် မိမိတစ်ဦးတည်းဖြစ်စေ မည်သည့် ပြည်တွင်းပြည်ပပုဂ္ဂိုလ်များ [illegible] လုပ်ကိုင်ရန်။

(က) သေယံယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း။

(ခ) (ကျွန်းမှအပ) သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ ခွင့်ပြုချက်ဖြင့်) ခုတ်လှဲခြင်း ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း။

(ဂ) တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း။

(ဃ) ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ တာရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့် ပြုပြင်ထုတ်လုပ်ခြင်း။

(င) ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း။

(စ) လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဆ) အိမ်သုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဇ) ယာဉ်နှင့်စက်ကိရိယာများ၊ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဈ) လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်များနှင့် ပရိဘောဂများ ထုတ်လုပ်ခြင်း။

(ည) ဆောက်လုပ်ရေးပစ္စည်းများနှင့်သုတ်ဆေးများ ထုတ်လုပ်ခြင်း။

(ဋ) စက်ရုံသုံးပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဌ) လျှပ်စစ်နှင့်အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။

(ဍ) အထည်အလိပ်နှင့် အဝတ်အထည်များ ထုတ်လုပ်ခြင်း။

(ပ) အစိုးရ၏ ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန် ပစ္စည်းများကို ရောင်းချခြင်းလုပ်ကိုင်ရန်၊

၂။ အထက်ဖော်ပြပါ လုပ်ငန်းများတွင် လိုအပ်သည့် စက်ကိရိယာများ၊ အပိုပစ္စည်းများ၊ ကုန်ကြမ်းပစ္စည်းများနှင့် အခြားသောပစ္စည်းများကို ပြည်ပမှတင်သွင်းရန်နှင့် ထွက်ရှိလာသော ကုန်ချောများ၊ တစ်စိတ်တစ်ဒေသကုန်ချောများကို ပြည်တွင်းပြည်ပတွင် လက်လီလက်ကားရောင်းချရန်၊

၃။ ကုမ္ပဏီမှသင့်လျော် လျောက်ပတ်သည်ဟု ယူဆပါက ကုမ္ပဏီ၏ စီးပွားရေးလုပ်ငန်းတွင် အကျိုးရှိစေရန်အတွက် မည်သည့်ပုဂ္ဂိုလ်၊ စီးပွားရေးအဖွဲ့အစည်း၊ ကုမ္ပဏီ၊ ဘဏ် သို့မဟုတ် ငွေကြေးအဖွဲ့အစည်းထံမှမဆို ငွေချေးယူရန်၊

ခြွင်းချက်။ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ဖြစ်စေ၊ အခြားမည်သည့်အရပ်ဒေသ၌ဖြစ်စေ၊ အချိန်ကာလအလိုက် တည်မြဲနေသော တရားဥပဒေများ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ အခြားလုပ်ငန်းများကို လုပ်ကိုင်ဆောင်ရွက်ခြင်းမပြုပါ။ ထို့အပြင် ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်း၌ အချိန်ကာလ အားလျော်စွာ တည်မြဲနေသည့် တရားဥပဒေပြဋ္ဌာန်းချက်များ၊ အမိန့်ကြော်ငြာစာများ၊ အမိန့်များနှင့် လျော်ညီသင့်တော်ခြင်း၊ သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကိုဆောင်ရွက်မည်ဟု ခြွင်းချက် ထားရှိပါသည်။

## Thiri Malli Agricultural Co.,Ltd. လုပ်ငန်းရည်ရွယ်ချက်တွင် ထပ်မံတိုးမြှင့်ဆောင်ရွက် လုပ်ကိုင်လိုသည့် လုပ်ငန်းများ

၁။ လယ်ယာ [illegible] ကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း။
၂။ တိရစ္ဆာန် [illegible] အစားအစာ ရောင်းဝယ်ခြင်း။
၃။ ရေထွက် [illegible] ဝယ်ခြင်း။
၄။ ဓါတ်မြေဩဇာ [illegible] ရောင်းဝယ်ခြင်း။
၅။ အိမ်သုံး [illegible] ခြင်း။
၆။ လူသုံးကုန်ပစ္စည်းများ ရောင်းဝယ်ခြင်း။
၇။ ကိရိယာတန်ဆာပလာအမျိုးမျိုးရောင်းဝယ်ခြင်း။
၈။ ဆေးနှင့် [illegible] များရောင်းဝယ်ခြင်း။
၉။ ကား [illegible] များရောင်းဝယ်ခြင်း။
၁၀။ အထည်အလိပ်နှင့် [illegible] များရောင်းဝယ်ခြင်း။
၁၁။ စက္ကူ [illegible] ပစ္စည်းများရောင်းဝယ်ခြင်း။
၁၂။ ရုံးသုံးပစ္စည်းများနှင့် ပညာရေးအထောက်အကူပစ္စည်းများရောင်းဝယ်ခြင်း။
၁၃။ လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက်ကုန်ပစ္စည်းများကို စိုက်ပျိုးခြင်း၊ ထုတ်လုပ်ခြင်း၊ ရိတ်သိမ်းခြင်း၊ ကာလရှည်ခံအောင်ပြုပြင်ခြင်း၊ ထုတ်ပိုးခြင်း၊ ကြိတ်ခွဲခြင်းနှင့် ကုန်ထုတ်လုပ်ခြင်း။
၁၄။ (ကျွန်းမှအပ)သစ်နှင့် သစ်တောထွက်ပစ္စည်းများအား (သက်ဆိုင်ရာဌာန၏ခွင့်ပြုချက်ဖြင့်)ခုတ်လှဲခြင်း၊ ထုတ်ယူခြင်း၊ ခွဲစိတ်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ ကာလရှည်ခံအောင်ပြုပြင်ခြင်းနှင့် အသားသေစေခြင်း။
၁၅။ တိရစ္ဆာန်မွေးမြူခြင်းနှင့် တိရစ္ဆာန်ထွက်ကုန်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ခြင်း၊ စည်သွပ်ခြင်း။
၁၆။ ရေထွက်ကုန်ပစ္စည်းများအား ဖမ်းယူခြင်း၊ ကာလရှည်ခံအောင်ပြုပြင်ခြင်း၊ ကြိတ်ခွဲခြင်း၊ စည်သွပ်ခြင်းနှင့်ပြုပြင်ထုတ်လုပ်ခြင်း။
၁၇။ ဓါတ်မြေဩဇာ၊ ပိုးသတ်ဆေးနှင့် တိရစ္ဆာန်အစားအစာများထုတ်လုပ်ခြင်း။
၁၈။ လူသုံးကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။
၁၉။ အိမ်သုံးကုန်ပစ္စည်းများထုတ်လုပ်ခြင်း။
၂၀။ ယာဉ်နှင့် စက်ကိရိယာများ၏ အပိုပစ္စည်းများ ထုတ်လုပ်ခြင်း။
၂၁။ လက်မှုအနုပညာပစ္စည်းများ၊ ယွန်းထည်ပစ္စည်းများနှင့် ပရိဘောဂများထုတ်လုပ်ခြင်း။
၂၂။ ဆောက်လုပ်ရေးပစ္စည်းများနှင့် သုတ်ဆေးများထုတ်လုပ်ခြင်း။
၂၃။ စက်ရုံသုံးပစ္စည်းများနှင့် ကုန်ကြမ်းပစ္စည်းများထုတ်လုပ်ခြင်း။
၂၄။ လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများ ထုတ်လုပ်ခြင်း။
၂၅။ အထည်အလိပ်နှင့် အဝတ်အထည်များထုတ်လုပ်ခြင်း။
၂၆။ အစိုးရ၏ခွင့်ပြုချက်ဖြင့် သတ္တုရှာဖွေခြင်း၊ တူးဖော်ခြင်း၊ ထုတ်လုပ်ခြင်း၊ ပြုပြင်ခြင်းနှင့် ထွက်ရှိသောကုန်ပစ္စည်းများကို ရောင်းချခြင်း လုပ်ကိုင်ရန်။
၂၇။ အောင်းစီလုပ်ငန်းအမျိုးမျိုး၊ ကျွမ်းကျင်မှုအကိုင်ပင်ခံများ၊ လုပ်ငန်းအတိုင်ပင်ခံများ၊ အုပ်ချုပ်မှုအတိုင်ပင်ခံများနှင့် အကြံပေးဝန်ဆောင်မှု လုပ်ငန်းများ။
၂၈။ ကြော်ငြာနှင့် ကြော်ငြာကိုယ်စားလှယ်လုပ်ငန်းများ။
၂၉။ ဖျော်ဖြေရေးလုပ်ငန်းနှင့် ယင်းနှင့်ပတ်သက်သည့်လုပ်ငန်းများ
၃၀။ ဆေးဝန်ဆောင်မှုလုပ်ငန်းအမျိုးမျိုး။
၃၁။ သယ်ယူပို့ဆောင်ရေးလုပ်ငန်း (မီးရထားနှင့် လေကြောင်းမှအပ)
၃၂။ ပုံနှိပ်ထုတ်ဝေခြင်းလုပ်ငန်း။
၃၃။ တိုင်းတာရေးနှင့် စစ်ဆေးရေးလုပ်ငန်း။
၃၄။ စီမံကိန်းသစ်များ၌ ဖြစ်မြောက်နိုင်စွမ်း ရှိမရှိလေ့လာခြင်း၊ စီမံကိန်းပုံစံများချမှတ်ခြင်း၊ စီမံကိန်း ကုန်ကျစရိတ်ခန့်မှန်းခြင်းနှင့် ဝန်ဆောင် ပွက်ချက်ခြင်းလုပ်ငန်းများ။
၃၅။ စာရင်းရေးသွင်းခြင်း၊ စာရင်းစစ်ဆေးခြင်းနှင့် ဥပဒေအကြံပေးဝန်ဆောင်မှုလုပ်ငန်းများ။
၃၆။ ယာဉ်နှင့် စက်ကိရိယာအမျိုးမျိုး၊ ကြံခိုင်ရေးပြုလုပ်ခြင်း၊ မွမ်းမံခြင်းနှင့် ပြင်ဆင်ခြင်းလုပ်ငန်းများ။
၃၇။ လျှပ်စစ်နှင့် အီလက်ထရောနစ် ကုန်ပစ္စည်းများတပ်ဆင်ခြင်း၊ ပြုပြင်ခြင်းနှင့် မွမ်းမံတည်ဆောက်ခြင်းလုပ်ငန်းများ။
၃၈။ ဆောက်လုပ်ရေးလုပ်ငန်း။
၃၉။ ကျောက်မျက်လုပ်ငန်း။
၄၀။ အသေးစားငွေရေးကြေးရေးလုပ်ငန်း။
၄၁။ ဟိုတယ်လုပ်ငန်း။
၄၂။ ခရီးသွားလုပ်ငန်း။
၄၃။ ခရီးစဉ်ဆောင်ရွက်မှုလုပ်ငန်း။
၄၄။ ခရီးသွားကိုယ်စားလှယ်လုပ်ငန်း။
၄၅။ ဓာတုဗေဒနှင့် ဓာတ်ဆေးဆိုးဆေးများ

[illegible] အမည်၊ နိုင်ငံသား၊ နေရပ်နှင့် အကြောင်းအရာစုံလင်စွာပါသော စာယားတွင် လက်မှတ်ရေးထိုးသူ [illegible]သည် ဤသင်းဖွဲ့မှတ်တမ်းအရ ကုမ္ပဏီတစ်ခုဖွဲ့စည်းရန် လိုလားသည့်အလျောက် ကျွန်ုပ်တို့၏ [illegible] ယှဉ်တွဲ၍ပြထားသော အစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ရင်းနှီးငွေတွင် ထည့်ဝင်ရယူကြရန် [illegible]ကြပါသည်။

| | အစုထည့်ဝင်သူများ၏ အမည်၊ နေရပ်လိပ်စာနှင့် အလုပ်အကိုင် | နိုင်ငံသားနှင့် အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | ထိုးမြဲလက်မှတ် |
|---|---|---|---|---|
| ၁။ | [illegible] ဆွေ<br>[illegible]ရပ်ကွက်၊ မြစ်ကြီးနား မြို့၊<br>[illegible]ချင်ပြည်နယ်။<br>(ကုန်သည်) | မြန်မာ<br>၁၀/သဖရ<br>(နိုင်)<br>၁၀၆၆၅၉ | ၂၅၀ | (signature) |
| ၂။ | ဦး ကျော်သိတ<br>[illegible]ရပ်ကွက်၊ မြစ်ကြီး နား မြို့၊<br>ကချင်ပြည်နယ်။<br>(ကုန်သည်) | မြန်မာ<br>၁၀/သဖရ<br>(နိုင်)<br>၀၉၁၉၁၂ | ၂၅၀ | (signature) |
| ၃။ | | | | |

ရန်ကုန်။ နေ့စွဲ၊ ၂၀ ၀၇ ခုနှစ်၊ ဇူလိုင် လ၊ ၁၆ ရက်။

အထက်ပါလက်မှတ်ရှင်များသည် ကျွန်ုပ်တို့၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

TIN NWE AYE
B.Com,C.P.A
Certified Public Accountant

## မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

### အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်မသက်ဆိုင်သည့် ကုမ္ပဏီ

## ဆီဒီအင်စုံ ဇိုက်ပျိုး ရေး ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်းများ



၁။ ဤအသင်းဖွဲ့စည်းမျဉ်းနှင့် လိုက်လျောညီထွေမဖြစ်သည့် စည်းမျဉ်းများမှအပ၊ မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ နောက်ဆက်တွဲ ပထမဇယားပုံစံ 'က' ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပုဒ်မ ၁၇(၂)တွင် ဖော်ပြပါရှိသည့် မလိုက်နာ မနေရ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် အမြဲတမ်း သက်ဆိုင်စေရမည်။

### အများနှင့် မသက်ဆိုင်သော ကုမ္ပဏီ

၂။ ဤကုမ္ပဏီသည် အများနှင့် မသက်ဆိုင်သည့် ကုမ္ပဏီဖြစ်၍ အောက်ပါသတ်မှတ်ချက်များသည် အကျိုးသက်ရောက်စေရမည်။

(က) ဤကုမ္ပဏီက ခန့်အပ်ထားသော ဝန်ထမ်းများမှအပ၊ ဤကုမ္ပဏီ၏ အစုရှင်အရေအတွက်ကို ငါးဆယ်အထိသာ ကန့်သတ်ထားသည်။

(ခ) ဤကုမ္ပဏီ၏ အစုရှယ်ယာ သို့မဟုတ် ဒီဘင်ချာ သို့မဟုတ် ဒီဘင်ချာစတော့(ခ်) တစ်ခုခုအတွက် ငွေထည့်ဝင်ရန်အများပြည်သူတို့အား ကမ်းလှမ်းခြင်းမပြုလုပ်ရန် တားမြစ်ထားသည်။

### မ,တည်ရင်းနှီးငွေနှင့် အစုရှယ်ယာ

၃။ ကုမ္ပဏီ၏ သတ်မှတ် မ,တည်ငွေရင်း မှာ ကျပ် ၅၀၀,၀၀၀,၀၀၀ /-(ကျပ် သန်း ငါး ရာ တိတိ) ဖြစ်၍ ငွေကျပ် ၁၀၀၀၀ /-(ကျပ် တစ် သောင်း တိတိ) တန် အစုရှယ်ယာပေါင်း (၅၀၀၀၀ ) ခွဲထားပါသည်။
ကုမ္ပဏီ၏ ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများ နှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ အထွေထွေသင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့် ပြင်ဆင်နိုင်ခွင့် အာဏာရှိစေရမည်။

၄။ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို မထိခိုက်စေလျက် အစုရှယ်ယာများသည် ဒါရိုက်တာများ၏ ကြီးကြပ်ကွပ်ကဲမှု အောက်တွင် ရှိစေရမည်။ ၎င်းဒါရိုက်တာများသည် သင့်လျော်သော ပုဂ္ဂိုလ်များအား သတ်မှတ်ချက် အခြေအနေ တစ်ရပ်ရပ်ဖြင့် အစုရှယ်ယာများကို ခွဲဝေချထားခြင်း သို့မဟုတ် ထုခွဲရောင်းချခြင်းတို့ကို ဆောင်ရွက်နိုင်သည်။

